**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန**

စာအမှတ်၊စွမ်းအင်/မူဝါဒ-ဥပဒေ-လုပ်ငန်းစစ်/၀၄(၃၈၇ /၂၀၁၇)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဩဂုတ်လ ၂၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့်ရတနာစုကုမ္ပဏီတို့သည် ရေနံဓာတ်ငွေ့ရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန် အမြတ်ခွဲဝေမှုသဘောတူစာချုပ်နှင့် နောက်ဆက်တွဲစာချုပ်များချုပ်ဆို၍ လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းကိစ္စ**

၁။ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့်ရတနာစုကုမ္ပဏီတို့သည် ရေနံဓာတ်ငွေ့ရည်ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်နိုင်ရန် ၄-၇-၂၀၁၃ ရက်နေ့မှ စတင်ရပ်နားထားသော ရွှေ့ပြောင်းလည်ပတ်နိုင်သည့် (Skid Mounted) ကျွန်းချောင်းရေနံဓာတ်ငွေ့ရည်စက်ရုံကို ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံမြေနေရာသို့ ပြောင်းရွှေ့တပ်ဆင်၍ ရေနံဓာတ်ငွေ့ရည်စက်ရုံ(၂)ရုံ လည်ပတ်ထုတ်လုပ်ခြင်း၊ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(၄)ဆိုင်တို့ကိုငှားရမ်း၍ ဖြန့်ဖြူးရောင်းချခြင်းနှင့်အမြတ်ခွဲဝေမှုသဘောတူစာချုပ်နှင့် နောက်ဆက်တွဲစာချုပ်များအားချုပ်ဆို၍ လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းဖြစ်ပါသည်။
**နောက်ဆက်တွဲ(က၊ ခ၊ ဂ၊ ဃ၊ င)**

၂။ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းလက်အောက်ရှိရပ်နားထားသော ကျွန်းချောင်းရေနံဓာတ်ငွေ့ရည်စက်ရုံကို ကုမ္ပဏီ၏ကုန်ကျစရိတ်ဖြင့် ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံမြေနေရာသို့ပြောင်းရွှေ့ပြီး၊ မြန်မာ့ရေနံနှင့်သဘာဝဓာတ်ငွေ့လုပ်ငန်းမှ သဘာဝဓာတ်ငွေ့များ ဝယ်ယူကာ ရေနံဓာတ်ငွေ့ရည်စက်ရုံ (၂)ရုံ အား ငှားရမ်းလည်ပတ်၍ ရေနံဓာတ်ငွေ့ရည်များ ထုတ်လုပ်ခြင်း၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းပိုင် အရောင်းဆိုင်(၄)ဆိုင်မှ ဖြန့်ဖြူးရောင်းချခြင်း၊ သတ်မှတ်ထားသည့် လိုင်စင်များရယူ၍ ရေနံဓာတ်ငွေ့ရည်တင်သွင်းခြင်း၊ သိုလှောင်ခြင်းနှင့်ဖြန့်ဖြူးရောင်းချခြင်းတို့အား ဆောင်ရွက်နိုင်ရန်ရည်ရွယ်လျက် ပြည်တွင်းရှိ ရေနံဓာတ်ငွေ့ရည် သိုလှောင်ဖြန့်ဖြူးရောင်းချခွင့်လိုင်စင်ရရှိထားသည့်ကုမ္ပဏီများနှင့် စိတ်ပါဝင်စားသည့်ကုမ္ပဏီများသို့ အဆိုပြုလွှာများခေါ်ယူခဲ့ရာ အဆိုပြုလွှာတင်သွင်းရမည့် နောက်ဆုံးရက်တွင် ရတနာစုကုမ္ပဏီမှ အဆိုပြုလွှာတင်သွင်းခဲ့ပါသည်။

၃။ ယခုချုပ်ဆိုမည့် အမြတ်ခွဲဝေမှုသဘောတူစာချုပ်နှင့် နောက်ဆက်တွဲစာချုပ်များတွင် အောက်ပါအချက်များ အဓိကပါဝင်ပါသည်-

(က) ရတနာစုကုမ္ပဏီမှ ကနဦးရင်းနှီးမြှုပ်နှံမှုအဖြစ် ပထမ(၅)နှစ် အတွင်း ကျပ်သန်း ၂၀၀၀ နှင့် လုပ်ငန်းလည်ပတ်ဆောင်ရွက်ရန် အတွက် လိုအပ်သည့် လုပ်ငန်းလည်ပတ်ရန်ပုံငွေ ကျပ်သန်း ၁၀၀၀ စုစုပေါင်း ကျပ်သန်း ၃၀၀၀ ဖြင့် ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့် ရတနာစုကုမ္ပဏီတို့အကြား ချုပ်ဆိုမည့် အမြတ်ခွဲဝေမှုသဘောတူစာချုပ်တွင် စာချုပ်အကျိုး သက်ရောက်သည့်နေ့ကို မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့် ရတနာစုကုမ္ပဏီတို့ လက်မှတ်ရေးထိုးပြီး နောက် တစ်လအတွင်း လုပ်ငန်းဆောင်ရွက်မှုအာမခံ (Performance Bank Guarantee) ကို တစ်နှစ်ငှားရမ်းခ၏ ၁၀% ပေးသွင်းရမည်ဖြစ်ပြီး၊ ပေးသွင်း ပြီးသည့်နေ့မှ စ၍ သတ်မှတ်မည် ဖြစ်ပါသည်။

(ဂ) စာချုပ်သက်တမ်းသည် စာချုပ်အကျိုး သက်ရောက်သည့်နေ့မှစ၍ နှစ်(၃၀) ဖြစ်ပြီး၊ စာချုပ်သက်တမ်း မကုန်မီ (၆)လကြိုတင်၍ ဆက်လက်ငှားရမ်း လိုကြောင်း တင်ပြလာပါက တစ်ကြိမ်လျှင် (၅)နှစ်ဖြင့် နှစ်ကြိမ် သက်တမ်း တိုးမြှင့် ငှားရမ်းဆောင်ရွက်နိုင်မည် ဖြစ်ပါသည်။

(ဃ) စက်ရုံငှားရမ်းခအနေဖြင့် စက်ရုံလည်ပတ်ပါက တစ်နှစ်လျှင် ကျပ်သန်း ၃၂၀ နှင့် စက်ရုံမလည်ပတ်ပါက တစ်နှစ်လျှင် ကျပ်သန်း ၂၀ ကို ရရှိမည်ဖြစ်ပြီး ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်များငှားရမ်းခအနေဖြင့် အရောင်းဆိုင်(၁)ဆိုင်ကို တစ်နေ့လျှင် ကျပ်သန်း၂၀စီဖြင့် အရောင်းဆိုင်(၄)ဆိုင်အတွက် ကျပ်သန်း ၈၀ ကို နှစ်စဉ်ရရှိမည်ဖြစ်ပါ၍ ငှားရမ်းခစုစုပေါင်းအနေဖြင့် စက်လည်ပတ်ပါက တစ်နှစ်လျှင် ကျပ်သန်း ၄၀၀နှင့် စက်ရုံမလည်ပတ်ပါက ကျပ်သန်း ၁၀၀ တို့ကို မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းမှ နှစ်ရှည်ရရှိမည်ဖြစ်ပါသည်။

(င) ရေနံဓာတ်ငွေ့ရည်ချက်လုပ်၊ သိုလှောင်၊ တင်သွင်း၊ ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းမှ ရရှိသည့်အကျိုးအမြတ်မှ ငှားရမ်းခများနှင့် အမှန်တကယ်လုပ်ငန်း ဆောင်ရွက်ကုန်ကျစရိတ်များကိုနုတ်ပယ်၍ ကျန်အသားတင်အကျိုးအမြတ်၏ ၅၁% အား မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းမှ ခွဲဝေရရှိပါမည်။

(စ) ငှားရမ်းခကို ၅နှစ်တစ်ကြိမ် ပြင်ဆင်သတ်မှတ်မည်ဖြစ်ပြီး ကျသင့်နေသော ငှားရမ်းခ၏ ၂% မှ ၅% ထက် မပိုသောနှုန်းထားဖြင့် နှစ်ဦး နှစ်ဖက်

ညှိနှိုင်းတိုးမြှင့်သတ်မှတ်ပေးချေရမည်ဖြစ်ပါသည်။ ငှားရမ်းခနှုန်းတိုးမြှင့်ရာတွင် ငွေကြေးဖောင်းပွမှုနှုန်းထက် လျော့နည်းမှုမရှိစေရပါ။

(ဆ) စက်ရုံ၏ တစ်နှစ်ငှားရမ်းခကို ငှားရမ်းမှုမစတင်မီ တစ်ပတ်အတွင်း ကြိုတင်ပေးသွင်းရမည်ဖြစ်ပြီး ၁လ နောက်ကျတိုင်း ရက်လွန်ကြေးအဖြစ် တစ်နှစ်ငှားရမ်းခ၏ ၁%ကို ဒဏ်ကြေးအဖြစ် ပေးသွင်းရမည်ဖြစ်ပြီး၊ စုစုပေါင်း ရက်လွန်ကြေးသည် ၅% ထက် ကျော်လွန်ခြင်း မရှိစေရပါ။

(ဇ) ဝန်ထမ်းများနှင့်စပ်လျဉ်း၍ တည်ဆဲနိုင်ငံ့ဝန်ထမ်းဥပဒေ၊ နည်းဥပဒေများနှင့်အညီ ညှိနှိုင်းဆောင်ရွက်ရမည်ဖြစ်ပြီး တည်ဆဲဥပဒေ၊ နည်းဥပဒေများနှင့်အညီ အလုပ်ရှင်၊ အလုပ်သမားစာချုပ်များကို သီးခြားချုပ်ဆို ဆောင်ရွက်မည်ဖြစ်ပါသည်။

(ဈ) Corporate Social Responsibility (CSR) လူမှုအကျိုးပြုလုပ်ငန်းများအတွက် နှစ်စဉ် တစ်နှစ်ရရှိသောအသားတင်အမြတ်ငွေ၏ ၁% နှင့် ဝန်ထမ်းသက်သာချောင်ချိရေးအတွက် တစ်နှစ်ရရှိသောအသားတင်အမြတ်ငွေ၏ ၄% အထိ သုံးစွဲမည်ဖြစ်ပါသည်။

၄။ ရေနံဓာတ်ငွေ့ရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား နှစ်ရှည်ငှားရမ်း၍ အကျိုးအမြတ်ခွဲဝေသောစနစ်ဖြင့် အကျိုးတူပူးပေါင်းဆောင်ရွက်ရသဖြင့် ရပ်နားထားရသော ရေနံဓာတ်ငွေ့ရည်စက်ရုံ(ကျွန်းချောင်း)အား ညောင်တုန်းသို့ ရွှေ့ပြောင်းလည်ပတ်ခြင်းဖြင့် ရပ်နားထားသောစက်ရုံမှ ဝန်ထမ်းများနှင့်ဒေသတွင်းရှိ လူ့စွမ်းအားအရင်းအမြစ်များမှ အလုပ်အကိုင်များဖန်တီးပေးနိုင်ခြင်း၊ ရေနံဓာတ်ငွေ့ရည်ထုတ်လုပ်မှု ၁.၅ ဆတိုးတက်လာပြီး ဖြန့်ဖြူးရောင်းချချိန်တွင် ဈေးနှုန်းသင့်တင့်စွာဖြင့်ရောင်းချနိုင်ခြင်း၊ နိုင်ငံခြားငွေခြိုးခြံချွေတာမှုရှိခြင်း၊ ဌာနအနေဖြင့်လည်း အကျိုးအမြတ်ဆက်လက်ရရှိစေပြီး၊ ငွေလုံးငွေရင်းနှင့်သာမန်အသုံးစရိတ်များအတွက် နိုင်ငံတော်မှ ကျခံရန်မလိုအပ်တော့ခြင်းစသည့် အကျိုးကျေးဇူးများရရှိမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

၅။ အဆိုပါစာချုပ်မူကြမ်းများအား စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန၊ ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံးနှင့်မြန်မာနိုင်ငံတော်ဗဟိုဘဏ် တို့သို့သဘောထားမှတ်ချက်တောင်းခံခဲ့ပြီး ယင်းစာချုပ် (မူကြမ်း) များအပေါ်သဘောထားမှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီးဖြစ်ကြောင်း သက်ဆိုင်ရာဌာနများသို့လည်း တင်ပြထားပြီးဖြစ်ပါသည်။ **နောက်ဆက်တွဲ(စ)၊ (ဆ)၊ (ဇ)၊ (ဈ)၊ (ည)၊ (ဋ)၊ (ဌ)**

၆။ ၁၃-၃-၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ဒုတိယအကြိမ် ပြည်ထောင်စုလွှတ်တော် စတုတ္ထပုံမှန်အစည်းအဝေး(၁၄)ရက်မြောက်နေ့တွင် ရပ်နားထားသော ရွှေ့ပြောင်းလည်ပတ်နိုင်သည့် (Skid Mounted) ကျွန်းချောင်းရေနံဓာတ်ငွေ့ရည်စက်ရုံကို ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံမြေနေရာသို့ ရွှေ့ပြောင်း၍ ပုဂ္ဂလိကသို့ ငှားရမ်းပြီး လည်ပတ်ရန် စီစဉ်ဆောင်ရွက်လျက်ရှိကြောင်း ရှင်းလင်းဆွေးနွေးတင်ပြခဲ့ရာ ပြည်ထောင်စုလွှတ်တော်မှ မှတ်တမ်းတင်ထားရှိပါသည်။ **နောက်ဆက်တွဲ(ဃ)**

၇။ စာချုပ်ချုပ်ဆိုဆောင်ရွက်နိုင်ရေးအတွက် ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီသို့ တင်ပြခဲ့ရာ ၁၈-၈-၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် စီးပွားရေးရာကော်မတီအစည်းအဝေးအမှတ်စဉ် (၁၃/၂၀၁၇) မှ သဘောတူခဲ့ပြီးဖြစ်ပါသည်။ **နောက်ဆက်တွဲ(ဃ)**

၈။ သို့ဖြစ်ပါ၍ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့် ရတနာစုကုမ္ပဏီတို့သည် ရေနံဓာတ်ငွေ့ရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်နိုင်ရန် ၄-၇-၂၀၁၃ ရက်နေ့မှ စတင်ရပ်နားထားသော ရွှေ့ပြောင်းလည်ပတ်နိုင်သည့် (Skid Mounted) ကျွန်းချောင်းရေနံဓာတ်ငွေ့ရည်စက်ရုံကို ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံမြေနေရာသို့ ပြောင်းရွှေ့တပ်ဆင်၍ ရေနံဓာတ်ငွေ့ရည်စက်ရုံ(၂)ရုံလည်ပတ်ထုတ်လုပ်ခြင်း၊ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်(၄)ဆိုင်တို့ကိုငှားရမ်း၍ ဖြန့်ဖြူးရောင်းချခြင်းနှင့်အမြတ်ခွဲဝေမှုသဘောတူစာချုပ်နှင့် နောက်ဆက်တွဲစာချုပ်များချုပ်ဆိုပြီး လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ပါ၍ လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

24/8/17

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ထိန်လွင် ၊ အမြဲတမ်းအတွင်းဝန်)

YADANA SU COMPANY LIMITED

No.(1), Thiri 3rd Street, 2nd Quarter, Hlaing Township, Yangon, Myanmar.
Tel: + 95 1 522991, Fax: + 95 1 522992, E-mail: yw.nawarat@gmail.com

# ဝန်ထမ်းရေးရာကိစ္စ

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ တာဝန်ရှိသူများနှင့် ရတနာစုကုမ္ပဏီမှ တာဝန်ရှိသူများ၏ ညှိနှိုင်းဆွေးနွေးခဲ့မှုများအတိုင်း ဆောင်ရွက်ကြပါမည်-

၁။ လုပ်ငန်းဆက်လက်ဆောင်ရွက်ခြင်း

(က) နိုင်ငံတော်မှ ဖွဲ့စည်းပုံအရ ခန့်အပ်တာဝန်ပေးအပ်ထားသော ဝန်ထမ်းများအား ဖွဲ့စည်းပုံကို လတ်တလောမဖျက်ဘဲ တည်ဆဲနိုင်ငံ့ဝန်ထမ်းဥပဒေ နည်းဥပဒေများအတိုင်း လုပ်ထုံးလုပ်နည်းများနှင့်အညီ မူလအခြေအနေအတိုင်း ဆက်လက်တာဝန်ပေးပါမည်။

(ခ) ယခုငှားရမ်းသော ရေနံဓာတ်ငွေ့ရည်စက်ရုံနှင့် အရောင်းဆိုင်များတွင် တာဝန်ယူနေသော ဝန်ထမ်းများ၏ဆန္ဒအရ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ လက်အောက်ရှိ အခြားစက်ရုံများသို့ ပြောင်းရွှေ့လိုခြင်းရှိပါက ဝန်ထမ်း၏ ဆန္ဒအရ ရွှေ့ပြောင်းမှုပြုလုပ်ပေးပါမည်။

(ဂ) စက်ရုံနှင့်အရောင်းဆိုင်များတွင် စက်များပုံမှန်လည်ပတ်နိုင်ရေးအတွက် ထပ်မံလိုအပ်သော ဝန်ထမ်းများအား အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာနမှ ပြဋ္ဌာန်းထားသော ဝန်ထမ်းစည်းမျဉ်းဥပဒေ၊ နည်းဥပဒေများအတိုင်း ညွှန်ကြားချက်များကို လိုက်နာပြီး အလုပ်ရှင်အလုပ်သမား စာချုပ်များကို သီးခြားစီ ချုပ်ဆိုဆောင်ရွက်၍ ခန့်ထားပါမည်။

၂။ ရရှိသောခံစားခွင့်များ

(က) ဝန်ထမ်းများ၏ မူလလစာများကို ကုမ္ပဏီမှ ကျခံပေးချေရပါမည်။

(ခ) လူမှုဖူလုံရေးကြေးအနေဖြင့် လုပ်ငန်းရှင်မှ ထည့်ဝင်သော ဖူလုံရေးကြေးနှင့် ဝန်ထမ်းမှ ထည့်ဝင်သော ဖူလုံရေးကြေး နှစ်ရပ်စလုံးကို ကုမ္ပဏီမှ ကျခံရပါမည်။

(ဂ) ဝန်ထမ်းများအား အသက်အာမခံ ထားရှိပေးရပါမည်။

(ဃ) လူမှုအကျိုးပြုလုပ်ငန်းများ(CSR)အတွက် နှစ်စဉ်တစ်နှစ်ရရှိသော အသားတင်အမြတ်ငွေ၏ ၁%နှင့် ဝန်ထမ်းသက်သာချောင်ချိရေးအတွက် တစ်နှစ်ရရှိသော အသားတင်အမြတ်ငွေ၏ ၄% အပါအဝင် စုစုပေါင်း ၅%အထိ သုံးစွဲပါမည်။

(င) လစဉ်ဝန်ထမ်းတစ်ဦးချင်းသော်လည်းကောင်း၊ အစုအဖွဲ့လိုက်သော်လည်းကောင်း စွမ်းဆောင်နိုင်မှုများပေါ်တွင် အခြေခံ၍ ဆုကြေးများ ပေးအပ်မည့် အစီအစဉ်များ ပါဝင်ပါသည်။

၃။ ၂၀၁၇ခုနှစ်၊ စက်တင်ဘာလ (၄)ရက်နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၂၂/၂၀၁၇) ကြိမ်မြောက် အစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင်ဆောင်ရွက်ပြီးဖြစ်ပါသည်။

Ye Win
Managing Director
Yadana Su Company Limited.

နောက်ဆက်တွဲ (၅)

ကွင်းအမှတ်(၄၃၅) (၄၃၈)

ရိုးကြီးတောင်ကွင်း၊ဈောင်းမျှားကွင်း

ကညင်တောက်ကြီးကျေးရွာအုပ်စု

ညောင်တုန်းမြို့နယ်

၂၀၁၄-၂၀၁၅ ခုနှစ်

စကေး - ၁၆ လက်မ = (၁) မိုင်

ယာသိမ်း ကျင်းပြမြေပုံ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
စွမ်းအင်ဝန်ကြီးဌာန
မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း
နေပြည်တော်

Tel : 067-411349,067-411122
Fax No. : 067-411343
E-mail : MPEHO@mptmail.net.mm

စာအမှတ်၊ ၁၅၀၄(၃)/ ၁-၅၇၇/၄၉၉/၂၀၁၅
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဇူလိုင်လ ၁၄ ရက်

သို့

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
ပန်းဆိုးတန်းလမ်း၊ ရန်ကုန်မြို့

အကြောင်းအရာ ။ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(အလုံ)၏ မြေနေရာစိစစ်ပြန်ကြားပေးနိုင်ရန်ကိစ္စ

၁။ ဤလုပ်ငန်းရုံးချုပ်ကြီးကြပ်မှုအောက်ရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(အလုံ)အား ရန်ကုန်တိုင်းဒေသကြီး၊ အလုံမြို့နယ်၊ စောရန်ပိုင်အနောက်ရပ်ကွက်၊ ကမ်းနားလမ်းရှိ သဘာဝဓာတ်ငွေ့သုံးဓာတ်အားပေးစက်ရုံအနီးမြေဧရိယာ ၂.၃၉ ဧကပေါ်တွင် ၁၉၉၃ ခုနှစ် ဇူလိုင်လအတွင်းဖွင့်လှစ်၍ အများပြည်သူတို့အား မီးဖိုချောင်သုံး ရေနံဓာတ်ငွေ့ရည်များဖြန့်ဖြူးရောင်းချခဲ့ပါသည်။

၂။ အဆိုပါအရောင်းဆိုင်တည်ဆောက်ဖွင့်လှစ်ထားသောမြေဧရိယာ ၂.၃၉ ဧကအား ဌာနပိုင်အမည်ပေါက်ပိုင်ဆိုင်ခွင့်ရရှိရေးအတွက် ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီထံသို့ဆက်သွယ်တင်ပြဆောင်ရွက်ခဲ့ရာရင်း မြေဧရိယာ ၂.၃၉ ဧကမှာ မြို့မြေစာရင်းတွင်ပါဝင်ခြင်းမရှိဘဲမြို့မြေဌာန၏ Block Map အရ မြေတိုင်းရပ်ကွက်-၂၃အို၏ ရန်ကုန်မြစ်ဘက်ခြမ်းသောင်ထွန်းမြေပေါ်တွင် တည်ရှိကြောင်းစုံစမ်းသိရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပါရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(အလုံ)၏ မြေနေရာ ၂.၃၉ ဧကသည် ပို့ဆောင်ရေး ဝန်ကြီးဌာန မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ စီမံခန့်ခွဲပိုင်ခွင့်ရှိသော မြေအမျိုးအစားဧရိယာအတွင်း ရှိ/မရှိ သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန်ညှိနှိုင်းမေတ္တာရပ်ခံ အကြောင်းကြားအပ်ပါသည်။

ပူးတွဲ

ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(အလုံ)၏ ကောင်းကင်ဓာတ်ပုံ (၁)ပုံ
ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(အလုံ)၏ တည်နေရာပြပုံကြမ်း (၁)ပုံ

24/7/15

ဦးဆောင်ညွှန်ကြားရေးမှူး(ကိုယ်စား)
( ဝင်းတင် ၊ ညွှန်ကြားရေးမှူး )

D:\Myint Myint Aye\U Kyi Kyaw\Letter Head\LPG-Alone MYA5).doc

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပို့ဆောင်ရေးဝန်ကြီးဌာန
**မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**

No. 10, Pansodan Street, Yangon, Myanmar. Tel: (95-1) 379141, 246375, 387116 Fax: (95-1) 391355, 384737.
P.O. Box. No. 1, Email: mpa@mptmail.net.mm, http://www.mpa.gov.mm

စာအမှတ်၊ ၇၆၅ /၅၂(င)/၁၇-ကုန်(မြေ/ဆိပ်)
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ ၁၃ ရက်

သို့

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့ရေနံဓါတုဗေဒလုပ်ငန်း
နေပြည်တော်

အကြောင်းအရာ။ ရေနံဓါတ်ငွေ့အရောင်းဆိုင်(အလုံ)၏ မြေနေရာစိစစ် ပြန်ကြားပေးနိုင်ရန်ကိစ္စ

ရည် ညွှန်း ချက် ။ ဦးဆောင်ညွှန်ကြားရေးမှူး မြန်မာ့ရေနံဓါတုဗေဒလုပ်ငန်း၊ စွမ်းအင်ဝန်ကြီးဌာန၊ နေပြည်တော်၏ ၂၄-၇-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၁၅၀၄(၃)/၁-၅၇၇/၄၉၉/၂၀၁၅

ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမှုပြုလာသည့် အလုံမြို့နယ်၊ စောရန်ပိုင်အနောက်ရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ် ၂၃(ဝ)၏ ရန်ကုန်မြစ်ဘက်ခြမ်း သောင်ထွန်းမြေပေါ်ရှိ ဧရိယာ ၂.၃၉ ဧကမှာ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ စီမံခန့်ခွဲခွင့်ရှိသော ဆိပ်ကမ်းမြေ(ရေဝန်မြေ)ဖြစ်ပါကြောင်း ပြန်ကြား အပ်ပါသည်။

ဦးဆောင်ညွှန်ကြားရေးမှူး(ကိုယ်စား)
(သန်းနိုင်ဦး၊ ဒုတိယအထွေထွေမန်နေဂျာ)

မိတ္တူကို
- ဦးဆောင်ညွှန်ကြားရေးမှူး
  အထွေထွေမန်နေဂျာမှတစ်ဆင့်
- မန်နေဂျာ(မြေ/ဆိပ်)
- လက်ထောက်မန်နေဂျာ(မြေ/ဆိပ်-အနောက်)
- မျှောစာတွဲ
- ရုံးလက်ခံ

MPE.

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စွမ်းအင်ဝန်ကြီးဌာန
(ဝန်ကြီးရုံး)

၅၀
၂၄-၈-၁၅

စာအမှတ်၊ အုပ်ချုပ်-စီပံ/ပစ္စ/၆(၂၈၂၇)၂၀၁၅

အစရှေ့ထွေစီမံစနိုင်ငံရုံးခွဲ  ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ ၂၁ ရက်
စာအမှတ်
ရောက်ရှိအချိန် ၂၅/၈ ၂.၅၀

DA

သို့

ပို့ဆောင်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(အလုံ)မြေနေရာကိစ္စ

ရည် ညွှန်း ချက်။ (၁) မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ ၂၆-၆-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၃၆၅/၅၂ (င)/၁၇-ကုန်(မြေ/ဆိပ်) (စာတတ်ပုံမိတ္တူပူးတွဲလျက်)

(၂) မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း၏ ၂၄-၇-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၁၅၀၄ (၃)/၁-၅၇၇/၄၉၉/၂၀၁၅ (စာတတ်ပုံမိတ္တူပူးတွဲလျက်)

(၃) မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ ၁၃-၈-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၇၆၆/၅၂ (င)/၁၇-ကုန်(မြေ/ဆိပ်) (စာတတ်ပုံမိတ္တူပူးတွဲလျက်)

၁။ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း ကြီးကြပ်မှုအောက်ရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင် (အလုံ)အား ရန်ကုန်တိုင်းဒေသကြီး၊ အလုံမြို့နယ်၊ စေရန်ပိုင်အနောက်ရပ်ကွက်၊ ကမ်းနားလမ်းရှိ သဘာဝဓာတ်ငွေ့သုံးဓာတ်အားပေးစက်ရုံအနီး မြေဧရိယာ(၂.၃၉)ဧကပေါ်တွင် ဖွင့်လှစ်ရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၊ မြေနေရာချထားရေးအဖွဲ့မှ ခွဲဝေသတ်မှတ်ခဲ့ပါသဖြင့် ၁၉၉၃ ခုနှစ်၊ ဇူလိုင်လမှစ၍ အများပြည်သူတို့အား မီးဖိုချောင်သုံးရေနံဓာတ်ငွေ့ရည်များ ဖြန့်ဖြူး ရောင်းချခဲ့ပါသည်။

၂။ အဆိုပါအရောင်းဆိုင်တည်ဆောက်ဖွင့်လှစ်ထားသော မြေဧရိယာ(၂.၃၉)ဧကအား ဌာနပိုင် အမည်ပေါက်ပိုင်ဆိုင်ခွင့်ရရှိရေးအတွက် မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းမှ ရန်ကုန်မြို့တော်စည်ပင် သာယာရေးကော်မတီထံသို့ ဆက်သွယ်ဆောင်ရွက်ခဲ့ရာ ၎င်းမြေဧရိယာမှာ မြို့မြေဌာန၏ Block Ma အရ မြေတိုင်းရပ်ကွက်-၂၃(O) ၏ ရန်ကုန်မြစ်ဘက်ခြမ်း သောင်ထွန်းမြေပေါ်တွင် တည်ရှိပြီး မြို့မြေ စာရင်းတွင် ပါဝင်ခြင်းမရှိသဖြင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ မြန်မာ့ဆိပ်ကမ် အာဏာပိုင်သို့ မေးမြန်းခဲ့ရာ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ရည်ညွှန်း(၁)ပါစာဖြင့် ဆိပ်ကမ်းမြေ(ရေဝန်မြေ ဖြစ်ကြောင်း ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီသို့ စိစစ်ပြန်ကြားထားပါကြောင်း စုံစမ် သိရှိရပါသည်။

၃။ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(အလုံ)၏ မြေနေရာ(၂.၃၉)ဧကသည် ပို့ဆောင်ရေးဝန်ကြီး ဌာနမှ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ စီမံခန့်ခွဲပိုင်ခွင့်ရှိသော မြေအမျိုးအစားဧရိယာအတွင်း ရှိ/မရှ

D:\SuiCasevin Lone.i

သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်း(၂)ပါစာဖြင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ သဘောထားမှတ်ချက်တောင်းခံခဲ့ရာ ရည်ညွှန်း(၃)ပါစာဖြင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ စီမံခန့်ခွဲခွင့်ရှိသော ဆိပ်ကမ်းမြေ(ရေဝန်မြေ)ဖြစ်ပါကြောင်း အကြောင်းပြန်ကြားလာပါသည်။

၄။ သို့ဖြစ်ပါ၍ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(အလုံ)၏ မြေဧရိယာ(၂.၃၉)ဧကအား မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း အမည်ပေါက်ပိုင်ဆိုင်ခွင့်ရရှိရေး ဆောင်ရွက်လျက်ရှိရာ လွှဲပြောင်းပေးနိုင်ခြင်း ရှိ/မရှိအား သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ညှိနှိုင်းအကြောင်းကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(ဌေးအောင်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း

D:\St\Maseiah Lotte.doc

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၅၂-ပဆ/ခွဲ(၁) ၂၀၁၅ (ည) (၉ /၁၇၉)
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ ၉ ရက်

သို့

စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(အလုံ)မြေနေရာ ကိစ္စ

ရည် ညွှန်း ချက် ။ စွမ်းအင်ဝန်ကြီးဌာန၏ ၂၁.၈.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ အုပ်ချုပ် - စီမံ/ ၀၉/ ၆ (၂၈၂၇) ၂၀၁၅

၁။ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း ကြီးကြပ်မှုအောက်ရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(အလုံ) အား ဖွင့်လှစ်ရန် ရန်ကုန်တိုင်းဒေသကြီး၊ အလုံမြို့နယ်၊ စေရန်ပိုင်အနောက်ရပ်ကွက်၊ ကမ်းနားလမ်း ရှိ သဘာဝဓာတ်ငွေ့သုံး ဓာတ်အားပေးစက်ရုံအနီးရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ စီမံခန့်ခွဲခွင့်ရှိသော ဆိပ်ကမ်းမြေ (ရေဝန်မြေ)ဧရိယာ (၂.၃၉)ဧကအား မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း အမည်ပေါက် ပိုင်ဆိုင် ခွင့်ရရှိရေး ဆောင်ရွက်လျက်ရှိရာ လွှဲပြောင်းပေးနိုင်ခြင်း ရှိ/မရှိ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ အဆိုပါ ဆိပ်ကမ်းမြေ (ရေဝန်မြေ)ဧရိယာ (၂.၃၉)ဧကသည် မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းပိုင် ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(အလုံ) ခြံဝင်းအတွင်းကျရောက်နေသော သောင်ထွန်းမြေဖြစ်ပါသဖြင့် မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း အမည်ပေါက်ပိုင်ဆိုင်ခွင့်ရရှိရေးအတွက် ပို့ဆောင်ရေးဝန်ကြီးဌာန အနေဖြင့် လွှဲပြောင်းပေးနိုင်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

| ကြည့်ရှုပြီး ( ရှေ့နေ / စီမံ ) ဌာန | |
|---|---|
| ဦးဆောင်ညွှန်မှုး | |
| ဒု-ဦးဆောင်ညွှန်မှုး | ၉.၁၀ |
| ညွှန်မှုး | |
| | |

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
သက်ထွန်း - ဒေါက်တာ အမြဲတမ်းအတွင်းဝန်

မိတ္တူကို-
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

UTA

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
စွမ်းအင်ဝန်ကြီးဌာန
မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း
နေပြည်တော်

Tel : 067-411349,067-411122
Fax No. : 067-411343
E-mail : MPEHO@mptmail.net.mm

စာအမှတ်၊ ၁၅၀၄(၄)/၁-၅၇၇/၆၆၈/၂၀၁၅
ရက်စွဲ၊ ၂၀၁၅ ခုနှစ် စက်တင်ဘာ လ ၂၄ ရက်

သို့
စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင် (အလုံ)မြေနေရာကိစ္စ

ရည်ညွှန်းချက်။
(၁) ဤလုပ်ငန်း၏ ၂၄-၇-၂၀၁၅ ရက်စွဲပါ စာအမှတ်၊၁၅၀၄(၃)/၁-၅၇၇/၄၉၉/၂၀၁၅
(၂) မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ ၁၃-၈-၂၀၁၅ရက်စွဲပါစာအမှတ်၊ ၇၆၆/ ၅၂(င)/၁၇-ကုန်(မြေ/ဆိပ်)
(၃) စွမ်းအင်ဝန်ကြီးဌာန၏ ၂၁-၈-၂၀၁၅ရက်စွဲပါစာအမှတ်၊အုပ်ချုပ်-စီမံ/ ၀၉/၆(၂၈၂၇)၂၀၁၅
(၄) ပို့ဆောင်ရေးဝန်ကြီးဌာန၏ ၉-၉-၂၀၁၅ရက်စွဲပါ စာအမှတ်၊၅၂-ပဆ/ခွဲ (၁)၂၀၁၅(ည)(၉/၁၀၉)

၁။ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း ကြီးကြပ်မှုအောက်ရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်( အလုံ ) အား ရန်ကုန်တိုင်းဒေသကြီး၊ အလုံမြို့နယ်၊ဆောရန်ပိုင်အနောက်ရပ်ကွက်၊ ကမ်းနားလမ်းရှိသဘာဝ ဓာတ်ငွေ့သုံးဓာတ်အားပေးစက်ရုံအနီးမြေဧရိယာ(၂.၃၉)ဧကပေါ်တွင် ဖွင့်လှစ်၍ ၁၉၉၃ခုနှစ် ဇူလိုင်လမှစ၍ အများပြည်သူတို့အား မီးဖိုချောင်သုံး ရေနံဓာတ်ငွေ့ရည်များဖြန့်ဖြူးရောင်းချလျှက်ရှိသည့် အပြင် အဆိုပါဆိုင်အား အကျိုးတူပူးပေါင်းဆောင်ရွက်မှု(Joint Venture)ပြုလုပ်ရေး စီစဉ်ဆောင်ရွက်လျှက်ရှိပါသည်။

၂။ အဆိုပါအရောင်းဆိုင် တည်ဆောက်ဖွင့်လှစ်ထားသောမြေဧရိယာ( ၂.၃၉) ဧကအား ဌာနပိုင် အမည်ပေါက် ပိုင်ဆိုင်ခွင့်ရရှိရေး ဆောင်ရွက်ရာတွင် အဆိုပါမြေဧရိယာ (၂.၃၉)ဧကမှာ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မြေဖြစ်ကြောင်း သိရှိရပြီး လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်သွယ်ဆောင်ရွက်ခဲ့ရာ ရည်ညွှန်း(၄)ပါစာအရ ပို့ဆောင်ရေးဝန်ကြီးဌာနအနေဖြင့် အဆိုပါမြေ (၂.၃၉)ဧကအား စွန့်လွှတ်လွှဲပြောင်းနိုင်ကြောင်း ပြန်ကြားလာခဲ့ပြီး ဖြစ်ပါသည်။

၃။ အဆိုပါ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် မြေ(၂.၃၉)ဧကအား လုပ်ထုံးလုပ်နည်းများနှင့်အညီ ဤလုပ်ငန်းအမည်ပေါက် လွှဲပြောင်းလက်ခံနိုင်ရေးအတွက် စွမ်းအင်ဝန်ကြီးဌာနသို့ တင်ပြသွားရန် ၂၁-၉-၂၀၁၅ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေး အမှတ်စဉ်( ၁၅ /၂၀၁၅) ဆုံးဖြတ်ခဲ့ပြီး ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(အလုံ)အဖြစ် တည်ဆောက်အသုံးပြုထားလျက်ရှိသော ရန်ကုန်တိုင်းဒေသကြီး၊ အလုံမြို့နယ်၊ စောရန်ပိုင်အနောက်ရပ်ကွက်၊ ကမ်းနားလမ်းရှိ သဘာဝဓာတ်ငွေ့သုံးဓာတ်အားပေးစက်ရုံအနီး မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မြေဧရိယာ(၂.၃၉) ဧကအား ဤလုပ်ငန်းအမည်ပေါက် ပိုင်ဆိုင်ခွင့်ရရှိရေးအတွက် လိုအပ်သလို ဆက်လက်ဆောင်ရွက်ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

ဦးဆောင်ညွှန်ကြားရေးမှူး(ကိုယ်စား)
(ဝင်းတင်၊ညွှန်ကြားရေးမှူး)

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

နိုင်ငံတော်သမ္မတရုံး

စာအမှတ်၊ ၅၁(၃ ) / ၇ / သမ္မတရုံး

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၉ ရက်

သို့

ပြည်ထဲရေးဝန်ကြီးဌာန

ပို့ဆောင်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ **နိုင်ငံတော်သို့ပြန်လည်အပ်နှံခွင့်ကိစ္စ**

ရည် ညွှန်း ချက် ။ ပို့ဆောင်ရေးဝန်ကြီးဌာန၏၁၃-၁၀-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၅၂- ပဆ/ ခွဲ (၃) ၂၀၁၅ (ခ) (၁၀/၃၇)

ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ စီမံခန့်ခွဲခွင့်ရှိသော ဆိပ်ကမ်းမြေ (ရေဝန်မြေ) ဖြစ်သည့် ရန်ကုန်တိုင်းဒေသကြီး၊ အလုံမြို့နယ်၊ စောရန်ပိုင်အနောက်ရပ်ကွက်ရှိ မြေတိုင်းရပ်ကွက်အမှတ် ၂၃ (ဝ) ၏ ရန်ကုန်မြစ်ကမ်းခြမ်း သောင်ထွန်းမြေပေါ်ရှိ မြေဧရိယာ (၂.၃၉)ဧကကို စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းသို့ လွှဲပြောင်းပေးနိုင်ရေးအတွက် နိုင်ငံတော်သို့ ပြန်လည်အပ်နှံခွင့်ပြုပါရန် ရည်ညွှန်းစာဖြင့် တင်ပြလာခြင်းအား လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန် အကြောင်းကြားအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

သမ္မတဦးစီးရုံး

ဒုတိယသမ္မတဦးစီးရုံးများ

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

သမ္မတရုံးဝန်ကြီးဌာန(၃)

စွမ်းအင်ဝန်ကြီးဌာန

D:\2015\Dec\Dec 9\51-3.Docx

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်ထဲရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ပထရ/ ၂- ၃(၀၀၃၈)/ ထော-[illegible] ၂
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၁၅ ရက်

သို့

ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ **အသုံးပြုရန်မရှိသည့် စွန့်လွှတ်မြေများ ပြန်လည်အပ်နှံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန (ယခင်ပို့ဆောင်ရေးဝန်ကြီးဌာန၏) ၅-၄-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ၅၂-ပဆ/ ခွဲ(၁) ၂၀၁၆ (၃၀)(၄/၁၀)

၁။ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ စီမံခန့်ခွဲခွင့်ရှိသော ဆိပ်ကမ်းမြေ (ရေဝန်မြေ)ဖြစ်သည့် ရန်ကုန်တိုင်းဒေသကြီး၊ အလုံမြို့နယ်၊ စောရန်ပိုင်အနောက် ရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ် ၂၃(၀)၏ ရန်ကုန်မြစ်ဘက်ခြမ်း သောင်းထွန်းမြေပေါ်ရှိ မြေဧရိယာ ၂.၃၉ ဧကအား လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတု ဗေဒလုပ်ငန်းအမည်ပေါက် ပိုင်ဆိုင်ခွင့် ရရှိရေး လွှဲပြောင်းပေးနိုင်ရန် အလို့ငှာ နိုင်ငံတော်ကိုယ်စား အမိန့်ထုတ်ပြန်ဆောင်ရွက်ပေးပါရန် ရည်ညွှန်း ပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ၁၇-၁၂-၂၀၁၅ ရက်နေ့တွင်ပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၆/၂၀၁၅)ဖြင့် ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနပိုင်မြေအား လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနသို့ လွှဲပြောင်းပေးနိုင်ရေးအတွက် နိုင်ငံတော်သို့ ပြန်လည်အပ်နှံခွင့် ပြုကြောင်း ဆုံးဖြတ်ထားသည်ကို တွေ့ရှိရပါသည်။

၃။ သို့ပါ၍ လယ်ယာမြေနှင့်အခြားမြေများ သိမ်းဆည်းခြင်းခံရမှုများ ပြန်လည်စိစစ်ရေး ဗဟို ကော်မတီအား ဖွဲ့စည်းထားပြီးဖြစ်ရာ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနမှ စွန့်လွှတ်မြေအား နိုင်ငံတော်သို့ ပြန်အပ်ခြင်း၊ ပြည်ထဲရေးဝန်ကြီးဌာနမှ နိုင်ငံတော်ပိုင်မြေ(State Land)အမိန့်ထုတ်ခြင်း၊ နိုင်ငံတော်ပိုင်မြေ ဖြစ်ပြီးမှသာ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနသည် သက်ဆိုင်ရာနိုင်အုပ်ချုပ်ရေးမှူးရုံးနှင့် ဆက်သွယ်၍ မြေစာရင်းပုံစံ( ၁၀၅၊ ၁၀၆ )၊ ပြည်ထဲရေးဝန်ကြီးဌာန၏ (State Land)အမိန့်ကြော်ငြာစာ မိတ္တူ၊ သက်ဆိုင်ရာဝန်ကြီးဌာန၏ အုပ်ချုပ်မှုဆိုင်ရာသဘောတူညီချက်တို့နှင့်အတူ မြေလွှဲအမှုတွဲ ဖွင့်လှစ် ဆောင်ရွက်ရမည်ဖြစ်ပါကြောင်း သိရှိနိုင်ပါရန် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး ( ကိုယ်စား )
(ဒိုင်ထွန်းဦး၊ဒုတိယအမြဲတမ်းအတွင်းဝန်)

| | |
|---|---|
| အမှတ် | ၂၃၇၄ |
| ရက်စွဲ | ၁၇.၈.၂၀၁၆ |
| အချိန် | |

မိတ္တူကို
လက်ခံ/မျှော

D:\TTN\GENERAL_MYAE -(8).DOC 77

အင်းစိန်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ




| |
|---|
| ၂၀၁၆-၁၇ / ခုနှစ်သုံးမြေပုံမှရေးကူးပေးသည့် မှန်ကန်ကြောင်း သက်သေခံသည့် မိတ္တူမြေပုံ |
| အမည်ပေါက် စွမ်းအင်ဝန်ကြီးဌာန |
| မြေတိုင်းရပ်ကွက်အမှတ် ၁၁ F |
| လူနေရပ်ကွက်အမှတ် - |
| မြေကွက်အမှတ် ၁/က |
| မြေအမျိုးအစား — |
| ဧရိယာ ၀.၄၅၉ ဧက အတိုင်းအတာမပါပါ |
| မြို့နယ် အင်းစိန် |
| စကေး ၆၄" = ၁မိုင် |
| မှတ်တမ်းအပြစ်ထားရှိရန် လျှောက်ထားသည့်အကြောင်းအရာ |
| ၂-၈-၁၆ မြေတိုင်း(စ) မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန |
| ၂-၈-၁၆ မြေတိုင်း(စ) မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန |
| ဌာနမှူး ၂/၈ မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန |

ဌာနမှူး(ကိုယ်စား)
မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရုံးခွန်တံဆိပ်ခေါင်း
၂၀၀ကျပ် K 200

၂၀၁၆/၁၇ ခုနှစ်၏သုံး မြေပုံ/မြို့မြေစာရင်းမှ ရေးကူး သောကောက်နုတ်ချက် မိတ္တူ မြေပုံ/မြေရာဇဝင် ဖြစ်၍ တိကျမှန်ကန်ကြောင်း ထောက်ခံပါသည်။

(မြို့ပြ/မြေစီမံဌာန)

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

# မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန

မြေတိုင်းရပ်ကွက် ... ... ၁၁´ F ... ... ... ... ... ...

စာမျက်နှာ ... ... ၂ ... ... ... ... ... ... ...

မြို့နယ် ... ... ... ... ဒဂုံ;မြို့ ... ... ... ... ... ...

| က–ကနဦးမှတ်သားချက်များ | | | | | ခ–ပြောင်းလွှဲခြင်းအတွက် ပြောင်းလွှဲရာတွင် ပါဝင်သည့် မြေကွက်ငယ်များ | | |
|---|---|---|---|---|---|---|---|
| မြေကွက်အမှတ် | ဧရိယာ | ဂရန်(သို့)မြေငှား(သို့)လိုင်စင် (သို့)အငှားချထားခံရသူ၏ အမည်နှင့်နေရပ် | ယေား'၃'တွင် ဖော်ပြသူ၏ ပိုင်ဆိုင်ခွင့် အမျိုးအစား | မြေခွန်/မြေခ | မှတ်ပုံတင်စာချုပ် အမှတ်နှင့်နေ့စွဲ | လွှဲပြောင်းခံရသူ၏ အမည်နှင့်နေ့စွဲ | လွှဲပြောင်းမှု အမျိုးအစား |
| (၁) | (၂) | (၃) | (၄) | (၅) | (၆) | (၇) | (၈) |
| ၁၂/က | ၀.၄၅၉ | ဦးမင်း ဒဂုံ ဝန်ကြီး ဌာန | – | x | x x x | x x x | x x x |
| | ၀.၉၈၀ | | | | | | ကောက်နှုတ်ချက်မိတ္တူမှန် |
| | | | | | | | နှုတ်တမ်းအပြစ်သားရှိရန် |
| | | ဌာနမှူး(ကိုယ်စား) မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန | | | | | |

၂၀ ၁၆ / ၈ / ၁ ရက်နေ့ မြေပုံ/မြို့မြေစာရင်းရေးကူးထားသော ကောက်နှုတ်ချက်မိတ္တူမြေပုံ/မြေရာဇဝင်ဖြစ်၍ တိကျမှန်ကန်ကြောင်း ထောက်ခံပါသည်။

ဌာနမှူး
မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန

မြေတိုင်း(၁)
မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန

မြေတိုင်း(၁)
မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန

မြောက်ဒဂုံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

*** လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

မြန်မာ့ရေနံနှင့်ဓာတုဗေဒလုပ်ငန်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရုံးခွန်တံဆိပ်ခေါင်း
၂၀၀ကျပ် K 200




| |
|---|
| ၂၀၁၆-၁၇ ခုနှစ်သုံးမြေပုံမှရေးကူး ပေးသည့် မှန်ကန်ကြောင်း သက်သေခံသည့် မိတ္တူမြေပုံ |
| အမည်ပေါက် *** |
| မြေတိုင်းရပ်ကွက်အမှတ် - ၃၇ |
| လူနေရပ်ကွက်အမှတ် - |
| မြေကွက်အမှတ် - ၈၇၃/၁ |
| မြေအမျိုးအစား - ဘိုးရမြေ |
| ဧရိယာ - ၀.၈၆၇ ဧက |
| မြို့နယ် - ဒဂုံမြို့သစ်(မြောက်ပိုင်း) |
| စကေး - ၁″ = ၂၀၀′ |
| မှတ်တမ်းထားရန် လျှောက်ထားသည့်အကြောင်းအရာ |
| မြေတိုင်း(၂) မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန |
| မြေတိုင်း(၁) မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန |
| ဒုတိယဌာနမှူး (မြေတိုင်း) |

ဌာနမှူး (ကိုယ်စား)
မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန

၂၀၁၆/၁၇ ခုနှစ်ငါးသုံး မြေပုံ/မြို့မြေစာရင်းမှ ရေးကူး သော ဓာတ်ကူးမှတ်ချက် မိတ္တူ မြေပုံ/မြေရာဇဝင် ဖြစ်၍ တိကျမှန်ကန်ကြောင်း ထောက်ခံပါသည်။

(မြို့ပြ/ဒေမြယာဌာန)

ထုတ်ပေးသည့်နေ့စွဲ - 13.1.17

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

# မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန

မြေတိုင်းရပ်ကွက် ... ၃၇ ... ... ... ... ... ... ... ... စာမျက်နှာ ... ၈၂ /. ၈၃ ... ... ...

မြို့နယ်... အင်းစိန်(မြောက်ပိုင်း)... ... ... ..

| က–ကနဦးမှတ်သားချက်များ | | | | | ခ–ပြောင်းလွှဲခြင်းအတွက် ပြောင်းလွှဲရာတွင် ပါဝင်သည့် မြေကွက်ငယ်များ | | |
|---|---|---|---|---|---|---|---|
| မြေကွက်အမှတ် | ဧရိယာ | ဂရန်(သို့)မြေငှား(သို့)လိုင်စင်(သို့)အငှားချထားခံရသူ၏ အမည်နှင့်နေရပ် | ယောၤ ၃ တွင် ဖော်ပြသူ၏ ပိုင်ဆိုင်ခွင့် အမျိုးအစား | မြေခွန်/မြေခ | မှတ်ပုံတင်စာချုပ် အမှတ်နှင့်နေ့စွဲ | လွှဲပြောင်းခံရသူ၏ အမည်နှင့်နေ့စွဲ | လွှဲပြောင်းမှု အမျိုးအစား |
| (၁) | (၂) | (၃) | (၄) | (၅) | (၆) | (၇) | (၈) |
| ၈၇၃/၁ | | ၈ . ၀.၄၃န | အစိုးရမြေ | – | x x x | x x x | x x x |
| | | မြန်မာ့ရေနံနှင့်ဓာတုဗေဒလုပ်ငန်း | | | | | |
| | | ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ရုံးခွန်တံဆိပ်ခေါင်း ၂၀၀ကျပ် K 200 | | | | | ကာလပိုင်မှတ်ချက်ပါရှိ |
| | | | | | | | မှတ်တမ်းထားရှိ |
| | | (signature) ဌာနမှူး(ကိုယ်စား) မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှု | | | (signature) | (signature) | (signature) ၁၆.၁၂.၁၆ |
| ၂၀၁၆ | | | | | မြေတိုင်း(၂) မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန | မြေတိုင်း(၁) မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန | |

ထုတ်ပေးသည့်ရက်စွဲ - 13.1.17

မှော်ဘီ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန
## မြန်မာ့ရေနံဓာတုပစ္စည်းလုပ်ငန်း
## နေပြည်တော်

Tel : 067-411349,067-411122
Fax No. : 067-411343
E-mail : MPEHO@mptmail.net.mm

အကြောင်းအရာ ။ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(မှော်ဘီ) မြေ ၁.၁၆ ဧကအတွက် မြေယာ သီးနှံလျော်ကြေး တွက်ချက်ပေးနိုင်ရေးကိစ္စ

အမှတ်(၄) ဓာတ်မြေသြဇာစက်ရုံ (မြောင်းတကာ) ကွပ်ကဲမှုအောက်ရှိ ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်(မှော်ဘီ) မြေ ၁.၁၆ ဧကအား ဌာနပိုင်မြေအမည်ပေါက်ရရှိရေးဆောင်ရွက်ရန် မူလ မြေရှင်ထံ မြေယာလျော်ကြေးပေးရေး ကနဦးဆောင်ရွက်ရမည်ဖြစ်၍ မြေယာသီးနှံနစ်နာကြေး တန်ဘိုးတွက်ချက်သတ်မှတ်ပေးနိုင်ရေးအတွက် စက်ရုံအနေဖြင့် သက်ဆိုင်ရာမြို့နယ်အထွေထွေ အုပ်ချုပ်ရေးဦးစီးဌာန (မြို့နယ်လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့) မှတစ်ဆင့် ခရိုင်နှင့်တိုင်းဒေသကြီး (လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့)သို့ အဆင့်ဆင့် တင်ပြဆောင်ရွက်သွားရန်နှင့် မြေယာသီးနှံနစ်နာ ကြေးတန်ဘိုးတွက်ချက် သတ်မှတ်ပြီးပါက ဤလုပ်ငန်းရုံးချုပ်သို့ ပြန်လည်တင်ပြသွားရန် အကြောင်းကြားပါသည်။

ဦးဆောင်ညွှန်ကြားရေးမှူး(ကိုယ်စား)
( အောင်မြင့် ၊ ညွှန်ကြားရေးမှူး )

စက်ရုံမှူး
အမှတ်(၄)ဓာတ်မြေသြဇာစက်ရုံ(မြောင်းတကာ)

စာအမှတ်၊ ၁၅၀၄(၁)/၁-၅၇၇(၇)/ ၃၅၅ /၂၀၁၆
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဇွန် လ ၂၉ ရက်

D:\H H M\U Thein Aye\Letter Heart (F-4)(myae)(1.16).doc

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

(MPE)

စာအမှတ်၊ စွမ်းအင်/အုပ်ချုပ်-စီမံ/၁၀/၉( ၂၂၉၆ )၂၀၁၆
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ၊ ဇူလိုင်လ ၂၁ ရက်

သို့

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့

အကြောင်းအရာ။ မြေယာလျော်ကြေးသတ်မှတ်ပေးပါရန်ကိစ္စ

၁။ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း ကြီးကြပ်မှုအောက်ရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(မှော်ဘီ)အား မှော်ဘီမြို့၊မြို့မ(၄)ရပ်ကွက်၊ကျောက်ပုန်းမြောက်၊ ကွင်းအမှတ် (၅၈၂/ခ)၊ ဦးပိုင်အမှတ်(၁၉)၊ မြေဧရိယာ(၁.၁၆)ဧကပေါ်တွင် ၁၂-၂-၁၉၉၄ ရက်နေ့မှစ၍ ဖွင့်လှစ်ခဲ့ပြီး အဆောက်အဦများ အခိုင်အမာဆောက်လုပ်လျက် နောင်အနာဂါတ်တွင် ရေနံဓာတ်ငွေ့ရည်(L.P.G)များ တင်သွင်းဖြန့်ဖြူးရောင်းချရန် စီစဉ်ဆောင်ရွက်လျက်ရှိပါသဖြင့် ဌာနပိုင်အမည်ပေါက်ရရှိရေး ဆက်လက် ဆောင်ရွက်ရန် လိုအပ်လျက်ရှိပါသည်။

၂။ ၇-၁-၂၀၁၅ ရက်နေ့တွင် ပြည်ထဲရေးဝန်ကြီးဌာန၌ ကျင်းပပြုလုပ်ခဲ့သည့် မြေအသုံးချမှု စီမံခန့်ခွဲရေးဗဟိုကော်မတီနှင့် တိုင်းဒေသကြီး/ပြည်နယ်အစိုးရများ၊ဝန်ကြီးဌာနများ ညှိနှိုင်းအစည်းအဝေးတွင် မြေအသုံးချမှုစီမံခန့်ခွဲရေးဗဟိုကော်မတီအတွင်းရေးမှူးမှ အကြောင်းအရင်းခိုင်မာ၍ မစွန့်လွှတ်နိုင်သော မြေနေရာများအား ဌာနအမည်ပေါက် ဆက်လက်ဆောင်ရွက်ရာတွင် မြေပိုင်ရှင်များအား ၂၀၁၂ခုနှစ် လယ်ယာမြေဥပဒေအသစ်နှင့်အညီ မြေယာသီးနှံနစ်နာကြေး ပေးချေရန်လိုအပ်ကြောင်းနှင့် နစ်နာကြေး တွက်ချက်ရန် သက်ဆိုင်ရာအစိုးရအဖွဲ့နှင့် ဆက်သွယ်ဆောင်ရွက်သွားကြရန် လမ်းညွှန်မှာကြားထားရှိ ပါသည်။

၃။ သို့ဖြစ်ပါ၍ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(မှော်ဘီ) ၊ မြေဧရိယာ(၁.၁၆) ဧကအား ဌာနပိုင် အမည်ပေါက် ပိုင်ဆိုင်မှုရရှိရေးဆောင်ရွက်နိုင်ရန်အတွက် ၂၀၁၂ ခုနှစ် လယ်ယာမြေဥပဒေနှင့်အညီ မြေပိုင်ရှင်အား လျော်ကြေးပေးချေရမည်ဖြစ်ပါသဖြင့် မြေယာလျော်ကြေးတန်ဖိုး သတ်မှတ်ပေးနိုင်ပါရန် ညှိနှိုင်းအကြောင်းကြားအပ်ပါသည်။

အမြဲတမ်းအတွင်းဝန်(ကိုယ်စား)
( ဌေးအောင်၊ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို
မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း
မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ရန်ကုန်တိုင်းဒေသကြီး

(၂)

အကြောင်းအရာ။ **ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ရုံးတွင် အစည်းအဝေးတက်ရောက်ခဲ့မှု တင်ပြခြင်း**

ရည်ညွှန်းချက် ။ ရေနံဓာတုဗေဒပစ္စည်းများသယ်ပို့ဖြန့်ဖြူးရေးဌာန၏ ၁၅.၂.၂၀၁၇ ရက်စွဲပါ စာအမှတ် ၁၀၁/စီမံ/၂၀၁၇/(၁၀၂)

၁။ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ မြေယာသိမ်းနှံနစ်နာမှု လျော်ကြေးပေးနိုင်ရန် ကိစ္စနှင့်ပတ်သက်၍ အစည်းအဝေးတက်ရောက်ပါရန် တယ်လီဖုန်းဖြင့် ဆက်သွယ်ဖိတ်ကြားလာပါသဖြင့် (၃၀.၈.၂၀၁၇) ရက်နေ့ နံနက်(၁၀:၀၀) နာရီအချိန်တွင် ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ရုံး၌ အစည်းအဝေး တက်ရောက်ခဲ့ပါသည်။ အစည်းအဝေးသို့ ရန်ကုန်တိုင်းဒေသကြီး ဝန်ကြီး ဦးမြင့်သောင်း (ဘဏ္ဍာရေးနှင့်စီမံကိန်း)၊ ဝန်ကြီး ဦးဟံထွန်း (စိုက်ပျိုးရေး၊ မွေးမြူရေး၊ သစ်တောနှင့်စွမ်းအင်)၊ ဝန်ကြီး ဒေါ်နီလာကျော် (လျှပ်စစ်၊ စက်မှုလက်မှုနှင့် လမ်းပန်းဆက်သွယ်ရေး)၊ အမှတ်(၄)ဓာတ်မြေသြဇာစက်ရုံ(မြောင်းတကာ) မှ ဌာနမှူး ဦးတင်လှိုင်နှင့် အခြား ဌာနဆိုင်ရာ ပုဂ္ဂိုလ်များ တက်ရောက်ခဲ့ကြပါသည်။

၂။ အစည်းအဝေးတွင် မော်ဘီဓာတ်ငွေ့ရည်ဆိုင်မြေနေရာအား လျော်ကြေးပေးနိုင်ရန် ကိစ္စနှင့်ပတ်သက်၍ ရည်ညွှန်းချက်ပါစာအရ လျော်ကြေးငွေသတ်မှတ်ချက်အား ပေးလျော်ရန် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြခဲ့ရာ အဆိုပါမြေယာ လျော်ကြေးငွေသတ်မှတ်ခြင်းနှင့် ပတ်သက်၍ ပြန်လည်သုံးသပ်ရန် ဆုံးဖြတ်ခဲ့ပါသဖြင့် ယခုအစည်းအဝေး ခေါ်ယူခဲ့ခြင်းဖြစ်ပါကြောင်း၊ (၁၉၉၄) ခုနှစ်တွင် အဆိုပါမြေအား လယ်ယာမြေအနေအထားဖြင့် သိမ်းဆည်းခဲ့ပါသောကြောင့် မြို့ပြမြေတန်ဖိုး၏ သတ်မှတ်ချက်အတိုင်း ပေးလျော်၍ မရပါကြောင်း၊ စတင်သိမ်းဆည်းခဲ့စဉ်အခါက လယ်ယာမြေဖြစ်ပါသောကြောင့် ရန်ကုန်တိုင်းဒေသကြီး မြေယာတန်ဘိုး တွက်ချက်ရေးကော်မတီ၏ ဆုံးဖြတ်ချက်အရ လယ်ယာမြေအား သိမ်းဆည်းလျှင် မြို့ပြမြေယာပေါက်ဈေး၏ ၂၀% သာ ပေးလျော်ရန် ဆုံးဖြတ်ထားပါသဖြင့် လက်ရှိမြို့ပြမြေယာပေါက်ဈေး တစ်ဧကလျှင် သိန်း ၁၅၀၀ ကျပ်၏ ၂၀% ဖြစ်သည့် တစ်ဧကလျှင် ကျပ် သိန်း(၃၀၀) သတ်မှတ်ပြီး မြေဧရိယာ ၁.၁၆ ဧက အတွက် (၃၄၈)သိန်း အား လျော်ကြေးငွေ အဖြစ်သတ်မှတ် ပေးလျော်ရန် ဆုံးဖြတ်ခဲ့ပါသည်။

၃။ အစည်းအဝေးဆုံးဖြတ်ချက်အား ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက်တင်ပြသွားမည် ဖြစ်ပါကြောင်းနှင့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ရရှိပါက ဆုံးဖြတ်ချက်မှတ်တမ်း(သို့) အကြောင်းကြားစာနှင့်အတူ ပြန်လည်တင်ပြသွားမည် ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

(ကျော်သက်-ညွှန်ကြားရေးမှူး)
ရေနံဓာတုဗေဒပစ္စည်းများသယ်ပို့ဖြန့်ဖြူးရေးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း၊ နေပြည်တော်
စာအမှတ်၊ ၁၀၁/စီမံ/၂၀၁၇/( ၅၄ )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဩဂုတ်လ ၃၁ ရက်
မိတ္တူကို

ညွှန်ကြားရေးမှူး(အထွေထွေစီမံ)၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း၊ နေပြည်တော်
ညွှန်ကြားရေးမှူး(ကုန်ထုတ်)၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း၊ နေပြည်တော်
ညွှန်ကြားရေးမှူး(ဘဏ္ဍာရေး)၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း၊ နေပြည်တော်
အမှတ်(၄) ဓာတ်မြေသြဇာစက်ရုံ(မြောင်းတကာ)

ကြည့်ရှုပြီး

ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(မှော်ဘီ)

မြေနေရာ အခြေအနေ စစ်ဆေးတွေ့ရှိချက် တင်ပြခြင်း

၁။ မြေနေရာ အကျယ်အဝန်း နှင့် တည်နေရာ

ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(မှော်ဘီ)နေရာမှာ မှော်ဘီမြို့ ၊ ပြည်လမ်း နှင့် အမှတ်(၄) လမ်းမကြီးလမ်းဆုံမှ (၄)ဖာလုံ ခန့်အကွာ အမှတ်(၄)လမ်းမကြီးပေါ်တွင် တည်ရှိပါသည်။ အကျယ်အဝန်းမှာ (၁.၁၆)ဧက ရှိပါသည်။ ( ပူးတွဲ - ၁ ၊ ၂ ၊ ၃ )

၂။ အဆောက်အဦးတည်ရှိမှုအခြေအနေ

( က ) အဆောက်အဦးများမှာ ဟောင်းနွမ်းယိုယွင်းပျက်စီးလျှက်ရှိပြီး ပြန်လည်ပြုပြင် အသုံးပြုရမည် ဖြစ်ပါသည်။

( ခ ) ရေစင်ပေါ်ရှိ အုတ်ရေကန်မှာ ကွဲအက်ယိုစိမ့်ပြီး ပြန်လည်ပြုပြင်ပြီးမှ အသုံးပြုနိုင် မည်ဖြစ်ပါသည်။

( ဂ ) ခြံစည်းရိုးမှာ အောက်ခံအုတ်ရိုး ကွန်ကရစ်ကျောက်တိုင် Chain Link ကာနံရံဖြစ်ပြီး မွမ်းမံပြင်ဆင်ရန် လိုအပ်ပါသည်။

( ပူးတွဲ - ၄ ၊ ၅ ၊ ၆ )

၃။ ရေ / မီး ရရှိမှုအခြေအနေ

( က ) ရေရရှိမှုအခြေအနေ

- ၂" အဝိစိတွင်းမှ ရေကို 2.2 KW (3 H.P) Compressor ဖြင့် စုပ်ယူအသုံးပြု လျှက်ရှိပါသည်။

( ခ ) မီးရရှိမှုအခြေအနေ

- 50 KVA Transformer တပ်ဆင်ပြီး အသုံးပြုလျှက်ရှိပါသည်။

( ပူးတွဲ - ၇ ၊ ၈ )

၄။ အဝင်/အထွက် လမ်းများ အခြေအနေ

- အဝင်/အထွက် လမ်းများမှာ ဂဝံကျောက်ခင်းလမ်း ဖြစ်ပါသည်။

- သံပန်း ၊ သံတံခါးဂိတ်များဖြင့် တပ်ဆင်အသုံးပြုလျှက်ရှိပါသည်။

( ပူးတွဲ - ၈ )

# ဗော်ဘိမြို့ ရေနံတတ်ငွေ့အရောင်းဆိုင်တည်နေရာပြပုံကြမ်း




- ကွင်းအမှတ် (၅၈၂)
- မြို့မ(၄)ရပ်ကွက်၊ ဗော်ဘိမြို့
- မြေဧရိယာ (၁.၁၆ )ဧက
- အလျား (၂၆၆) ပေ
- အနံ (၂၀၅) ပေ
- အနံ (၁၄၅) ပေ

ရည်ညွှန်းချက်

- လျှောက်ထားလိုသည့်နယ်နမိတ်မြေဧရိယာ =
- အမှတ်(၄)လမ်းမကြီး =

ပုံစံ (၂)

098

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်
ရင်းနှီးမြှုပ်နှံသူ၏ အဆိုပြုချက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊ ၂၈/၂၀၁၇
ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဩဂုတ် လ ၂၈ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၆ နှင့်အညီ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုပါရန် အောက်ပါအချက်အလက်များ ကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏ -

(က) အမည် ဦးရဲဝင်း

(ခ) အဖအမည် ဦးချစ်ခင်

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ ၁၂/ ကမတ (နိုင်) ၀၀၀၀၂၁
နိုင်ငံကူးလက်မှတ်အမှတ်

(ဃ) နိုင်ငံသား ဗမာ

(င) နေရပ်လိပ်စာ အမှတ်(၁)၊ သီရိ(၃)လမ်း၊ (၂)ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်။

(၁) ပြည်တွင်း

(၂) ပြည်ပ

(စ) တယ်လီဖုန်း /ဖက်စ် 09-5131567 / 01-522 997

(ဆ) အီးမေးလ်လိပ်စာ ywe.nawarat@gmail.com

(ဇ) ပင်မကုမ္ပဏီအမည် ရတနာရု ကုမ္ပဏီလီမိတက်

(ဈ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ အမှတ်(၁)၊ သီရိ(၃)လမ်း၊ (၂)ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကု

(ည) လုပ်ငန်းအမျိုးအစား ကူးသန်းရောင်းဝယ်ရေး

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါကရင်းနှီးမြှုပ်နှံသူနှင့် ဖက်စပ်ပြုလုပ်မည့် သူများ၏ -

(က) အမည် ........................................

(ခ) အဖအမည် ........................................

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ ........................................

နိုင်ငံကူးလက်မှတ်အမှတ်

(ဃ) နိုင်ငံသား ........................................

(င) နေရပ်လိပ်စာ ........................................

(၁) ပြည်တွင်း ........................................

(၂) ပြည်ပ ........................................

(စ) ပင်မကုမ္ပဏီအမည် ........................................

(ဆ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ ........................................

**မှတ်ချက်။** အထက်အပိုဒ် ၁၊ ၂ တို့နှင့် စပ်လျဥ်း၍ အောက်ပါအချက်များကို ပူးတွဲတင်ပြရန် -

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားများ (မိတ္တူ)

(၂) နိုင်ငံသားစိစစ်ရေးကတ်အမှတ် (မိတ္တူ) နှင့် နိုင်ငံကူးလက်မှတ် (မိတ္တူ)

(၃) အဆိုပြုလုပ်ငန်းတွင် ပါဝင်လိုသူများ၏ လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး ဆိုင်ရာအထောက်အထားများ

၃။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါကလျှောက်ထားသူ၏ -

(က) အမည် ........................................

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် ........................................

(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)

မှတ်ချက်။ တရားဝင်ကိုယ်စားလှယ်လွှဲစာပူးတွဲတင်ပြရန်

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ........................................

(ဃ) နိုင်ငံသား……………………………………………………

(င) မြန်မာနိုင်ငံတွင်နေထိုင်သည့် ……………………………………………………

နေရပ်လိပ်စာ ……………………………………………………

(စ) တယ်လီဖုန်း /ဖက်စ် ……………………………………………………

(ဆ) အီးမေးလ်လိပ်စာ……………………………………………………

၄။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း မှ စက်ရုံ နှင့် ဆိုင်များငှါး၍ ရေနံဓာတ်ငွေ့ရည် ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း

၅။ ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်

☐ ရာခိုင်နှုန်းပြည့် ☐ ဖက်စပ်ပြုလုပ်ခြင်း(ဖက်စပ်စာချုပ်မူကြမ်းတင်ပြရန်)

☑ အခြားသဘောတူညီချက်ပုံစံတစ်မျိုးမျိုးဖြင့်ဆောင်ရွက်ခြင်း(စာချုပ်မူကြမ်းတင်ပြရန်)

၆။ အစုရှယ်ယာရှင်များစာရင်း

| စဉ် | အစုရှယ်ယာရှင်အမည် | နိုင်ငံသား | အစုရှယ်ယာပိုင်ဆိုင်မှု% |
|---|---|---|---|
| ၁။ | ဦးရဲဝင်း | ဗမာ | 31.25 % |
| ၂။ | ဒေါ်ဝင်းသီတာလွင် | ဗမာ | 6.25 % |
| ၃။ | ဒေါ်စီစီ | ဗမာ | 31.25 % |
| ၄။ | ဒေါ်သီတာကြည် | ဗမာ | 31.25 % |

၇။ ကုမ္ပဏီဖွဲ့စည်းခြင်းနှင့်သက်ဆိုင်သောအချက်အလက်များ

(က) ခွင့်ပြုမတည်ငွေရင်း………ကျပ်သိန်း (၁၀၀)………

(ခ) အစုရှယ်ယာအမျိုးအစား ……………………………………

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့် အစုရှယ်ယာပမာဏ 68.75% (68,750,000/-)

……………………………………………………

**မှတ်ချက်။** သင်းဖွဲ့မှတ်တမ်း/သင်းဖွဲ့စည်းမျဉ်း သို့မဟုတ် ဖွဲ့စည်းပုံအခြေခံစည်းမျဉ်း ပူးတွဲ တင်ပြရန် - ပူးတွဲ (၁)

၈။ မတည်ငွေရင်းနှင့်သက်ဆိုင်သည့်အချက်အလက်များ-

ကျပ်/US$(သန်းပေါင်း)

(က) ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း ......၃၀၀၀......
ပမာဏ/ ရာခိုင်နှုန်း

(ခ) နိုင်ငံခြားမှ ယူဆောင်လာမည့် မတည်ငွေရင်း ..................
ပမာဏ/ ရာခိုင်နှုန်း

စုစုပေါင်း

(ဂ) အဆိုပြုမတည်ငွေရင်းနှစ်အလိုက်ထည့်ဝင်မည့်အခြေအနေ/ယူဆောင်လာမည့်ကာလ
......ပူးတွဲ (၂)......

(ဃ) ရင်းနှီးမြှုပ်နှံမှုတန်ဖိုး/ပမာဏ ......၂၀၀၀......

(င) ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း (၃၀) နှစ် + ၅ + ၅

(စ) ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းတည်ဆောက်မှုကာလသို့မဟုတ် ပြင်ဆင်မှုကာလ (၂) နှစ်

**မှတ်ချက်**။ အပိုဒ် ၈(င) နှင့် စပ်လျဉ်း၍ ထူးခြားသည့် အခြေအနေရှိပါက နောက်ဆက်တွဲဖြင့် ဖော်ပြပါရန်

၉။ နိုင်ငံခြားမှ ယူဆောင်တင်သွင်းလာမည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း-

| | နိုင်ငံခြားငွေ (သန်းပေါင်း) | ညီမျှသည့်ခန့်မှန်းငွေကျပ် (သန်းပေါင်း) |
|---|---|---|
| (က) နိုင်ငံခြားငွေ (အမျိုးအစားနှင့် တန်ဖိုးပမာဏ) | | |
| (ခ) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့်ပစ္စည်းတို့၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | | |
| (ဂ) ကနဦးကုန်ကြမ်းပစ္စည်းများနှင့် အခြားအလားတူပစ္စည်းများ၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | | |
| (ဃ) လိုင်စင်၊ တီထွင်မှုပိုင်ဆိုင်ခွင့်၊ စက်မှုဒီဇိုင်း၊ကုန်အမှတ်တံဆိပ်၊ | | |

မူပိုင်ခွင့် စသည့် အသိဉာဏ်
ဆိုင်ရာပစ္စည်းများကိုတန်ဖိုး
ဖြတ်နိုင်သောအခွင့်အရေးများ၏
တန်ဖိုးပမာဏ

(င) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ ............ ............

(စ) အခြား (ဥပမာ-ဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများ) ............ ............

စုစုပေါင်း

**မှတ်ချက်**။ အပိုဒ် ၉ (ဃ) (င) တို့နှင့် စပ်လျဉ်း၍ အသုံးပြုခွင့်အထောက်အထားများ ပူးတွဲ တင်ပြရန်။

၁၀။ ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း-

| | ကျပ်(သန်းပေါင်း) |
|---|---|
| (က) ငွေပမာဏ | ၁၀၀၀ |
| (ခ) စက်ပစ္စည်းကိရိယာများတန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | ၂၀၀ ပူးတွဲ (၃) |
| (ဂ) မြေ/ အဆောက်အအုံ တန်ဖိုး သို့မဟုတ် ငှားရမ်းခ | |
| (ဃ) အဆောက်အအုံဆောက်လုပ်မှုကုန်ကျစရိတ် | |
| (င) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | ၁၃၀၀ ပူးတွဲ (၃) |
| (စ) ကနဦးကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | |
| (ဆ) အခြား | ၅၀၀ ပူးတွဲ (၃) |
| စုစုပေါင်း | ၃၀၀၀ |

၁၁။ ဈေးငွေနှင့်သက်ဆိုင်သည့် အချက်အလက်များ-

☐ ပြည်တွင်းဈေးငွေ ........................................ ကျပ်

........................................ အမေရိကန်ဒေါ်လာ

☐ ပြည်ပဈေးငွေ ........................................ အမေရိကန်ဒေါ်လာ

၁၂။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသ(များ)/တည်နေရာ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒ ပ်ငန်း၊ ရေနံဓာတ်ငွေ့ရည်စက်ရုံ (သောင်တွန်း)၊ အလုံအရောင်းဆိုင်၊ အင်းစိန်အရောင်းဆိုင်၊ မ/ဒဂုံအရောင်းဆိုင်၊ မှော်ဘီအရောင်းဆိုင်

(ခ) မြေ သို့မဟုတ် မြေနှင့်အဆောက်အအုံနေရာအမျိုးအစားနှင့် အကျယ်အဝန်းလိုအပ်ချက်

(၁) တည်နေရာ........................................

(၂) မြေ/အဆောက်အအုံအကျယ်အဝန်း၊အရေအတွက် ........................................

(၃) လက်ရှိပိုင်ဆိုင်သူ........................................

(ကက) အမည်/ ကုမ္ပဏီအမည်/ဌာန........................................

(ခခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်........................................

(ဂဂ) နေရပ်လိပ်စာ........................................

........................................

(၄) မြေအမျိုးအစား........................................

(၅) မြေငှားဂရန် ခွင့်ပြုကာလ ........................................

(၆) ငှားရမ်းမည့်ကာလ ........................ မှ ........................ ထိ ( )နှစ်

(၇) ငှားရမ်းခနှုန်းထား........................................

(ကက) မြေ........................................

(ခခ) အဆောက်အအုံ........................................

(၈) ရပ်ကွက်........................................

(၉) မြို့နယ်........................................

(၁၀) ပြည်နယ်/တိုင်းဒေသကြီး........................................

(၁၁) ငှားရမ်းမည့်ပုဂ္ဂိုလ် ဦးရဲဝင်း

(ကက) အမည်/ ကုမ္ပဏီအမည်/ဌာန ရတနာရှု ကုမ္ပဏီလီမိတက်

(ခခ) အဖအမည် ဦးချစ်ခင်

(ဂဂ) နိုင်ငံသား ဗမာ

(ဃဃ) နိုင်ငံကူးလက်မှတ်အမှတ်/ ၁၂/မဂတ(နိုင်) ၀၀၀၇၂၃
နိုင်ငံသားစိစစ်ရေးကတ်အမှတ်

(ငင) နေရပ်လိပ်စာ အမှတ်(၁)၊ သီရိ(၃)လမ်း၊ (၂၁)ရပ်ကွက်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်။

(ဂ) ဆောက်လုပ်မည့်အဆောက်အအုံလိုအပ်ချက်

(၁) အဆောက်အအုံအမျိုးအစား/အရေအတွက် ..............

(၂) အကျယ်အဝန်း ..............

(ဃ) နှစ်စဉ်ထုတ်လုပ်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှု လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း ရေနံဓာတ်ငွေ့ရည်/ ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း

(င) နှစ်စဉ် လျှပ်စစ်ဓါတ်အားလိုအပ်ချက် ..............

(စ) နှစ်စဉ် ရေလိုအပ်ချက် ..............

မှတ်ချက်။ အပိုဒ်၁၂(ခ)နှင့်စပ်လျဉ်း၍အောက်ပါအချက်များပူးတွဲတင်ပြရန်-

(၁) မြေပိုင်ဆိုင်မှု/မြေဂရန်အထောက်အထား(စက်မှုဇုန်မှ အပ)နှင့်မြေပုံ

(၂) မြေငှားစာချုပ်(မူကြမ်း)

၁၃။ ငွေကြေးပိုင်ဆိုင်မှုနှင့် ပတ်သက်၍ အသေးစိတ်ဖော်ပြချက်-

(က) အမည်/ ကုမ္ပဏီအမည် ဦးရဲဝင်း / ရတနာစုကုမ္ပဏီလီမိတက်

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ၁၂/ ဗဟန(နိုင်) ၀၀၀၀၂၁

(ဂ) ဘဏ်စာရင်းအမှတ် ရှေ့ဝေါ်ဘဏ် Account No. 0002 2030 1276 2878

(မိခင်နိုင်ငံရှိဘဏ်ထောက်ခံချက် သို့မဟုတ် မိခင်ကုမ္ပဏီ၏ စာရင်းစစ်ပြီးသည့် နှစ်ချုပ် စာရင်းပူးတွဲတင်ပြရန်) - ပူးတွဲ (၄)

၁၄။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းတွင် လိုအပ်မည့် ဝန်ထမ်းများစာရင်း - ပူးတွဲ (၅)

| စဉ် | အဆင့်အတန်း | မြန်မာနိုင်ငံသား | နိုင်ငံခြားသား | စုစုပေါင်း |
|---|---|---|---|---|
| (က) | အကြီးတန်းစီမံခန့်ခွဲမှု<br>(မန်နေဂျာများ၊ အဆင့်မြင့်အရာရှိများ) | ၃၇ | | ၃၇ |
| (ခ) | အခြားအဆင့်စီမံခန့်ခွဲမှု<br>(အကြီးတန်းစီမံခန့်ခွဲမှုမှအပ) | ၂၁ | | ၂၁ |
| (ဂ) | သက်မွေးဝမ်းကျောင်းပညာရှင်များ | | | |
| (ဃ) | နည်းပညာနှင့်ဆက်စပ်သည့်သက်မွေးပညာရှင် | | | |
| (င) | အကြံပေး | | | |
| (စ) | ကျွမ်းကျင်လုပ်သား | ၁၆၀ | | ၁၆၀ |
| (ဆ) | အခြေခံလုပ်သား | ၁၈ | | ၁၈ |
| စုစုပေါင်း | | ၂၃၆ | | ၂၃၆ |

**မှတ်ချက်။** အောက်ဖော်ပြပါ ဖော်ပြချက်များပူးတွဲဖော်ပြရန်

(၁) လုပ်သားများ၏ လူမှုဖူလုံရေး၊သက်သာချောင်ချိမှုဆောင်ရွက်မည့် အစီအမံများ - ပူးတွဲ (၆)

(၂) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းပြုလုပ်မည့် အစီအမံများ - ပူးတွဲ (၇)

၁၅။ အဆိုပြုချက်နှင့်အတူအောက်ဖော်ပြပါ လျှောက်ထားလွှာများကိုတင်ပြလျှောက်ထားခြင်းရှိ/မရှိဖော်ပြရန်-

☐ မြေအသုံးပြုခွင့်လျှောက်ထားလွှာ

☐ အခွန်ကင်းလွတ်ခွင့်သို့မဟုတ် သက်သာခွင့်လျှောက်ထားလွှာ

၁၆။ အဆိုပြုရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအကျဉ်းချုပ်အား နောက်ဆက်တွဲဖြင့် ဖော်ပြရန်။

လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း၊ ကျွန်းချောင်း ရေနံဓာတ်ငွေ့ရည် စက်ရုံကို ညောင်တုန်း ရေနံဓာတ်ငွေ့ရည်စက်ရုံမြေနေရာသို့ ပြောင်းရွှေ့တပ်ဆင်၍ ဓာတ်ငွေ့ရည် စက်ရုံ (၂) ရုံ လည်ပတ်ထုတ်လုပ်ခြင်း ၊ ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင် (၄) ဆိုင်တို့ကို ငှါးရမ်း၍ ဖြန့်ဖြူးရောင်းချခြင်းနှင့် အမြတ်ခွဲဝေခြင်းတို့ကို တင်ပြထားသော စာချုပ်များတွင် ဖော်ပြပါရှိ ပါသည်။

လျှောက်ထားသူလက်မှတ်

အမည် Ye Win

Managing Director

ရာထူး Yadana Su Company Limited

ဌာန/ကုမ္ပဏီတံဆိပ်

ရက်စွဲ- ၂၀၁၇ ခုနှစ် ၊ ဖေဖော်ဝါရီလ ၊ ၂၈ ရက်

## အဆိုပြုရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအကျဉ်းချုပ်(နည်းဥပဒေ ၃၈)

၁။ ရင်းနှီးမြှုပ်နှံမှုတွင် တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်၍ဖြစ်စေ အကျိုးစီးပွား သိသာထင်ရှားစွာပါဝင်သော အခြားပုဂ္ဂိုလ်များဖော်ပြရန်-

(က) ရင်းနှီးမြှုပ်နှံသူမှ ရရှိမည့် အမြတ်ငွေ ၏ ၁၀ % နှင့် အထက်ကို ပိုင်ဆိုင်ခွင့်ရှိသည့် သို့မဟုတ် ထိန်းချုပ်ခွင့်ရှိသည့် လုပ်ငန်း၏ -

(၁) အမည် ---လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန---

(၂) ဆက်သွယ်ရမည့်လိပ်စာ ----------------

(၃) မှတ်ပုံတင်အမှတ် ----------------

(တစ်ဦး ထက်ပိုပါက နောက်ဆက်တွဲဖြင့် ဖော်ပြရန်)

(ခ) ခွင့်ပြုမည့်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်ရာတွင်တိုက်ရိုက်ပါဝင်သည့် လက်အောက်ခံကုမ္ပဏီများရှိလျှင် အဆိုပါကုမ္ပဏီများ၏အမည်ကို ဖော်ပြရန်-

(၁) ---မြန်မာ့ရေနံ ဓာတုဗေဒလုပ်ငန်း---

(၂) ----------------

(၃) ----------------

၂။ ရင်းနှီးမြှုပ်နှံမှု၏ အဓိကတည်နေရာ သို့မဟုတ် တည်နေရာများ ---နေပြည်တော်---

----------------

----------------

----------------

၃။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းပြုလုပ်မည့်ကဏ္ဍနှင့် ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းများ ဖော်ပြချက် ----------------

----------------

----------------

၄။ အဆိုပြုထားသော ရင်းနှီးမြှုပ်နှံမှုပမာဏ (မြန်မာကျပ် နှင့် အမေရိကန်ဒေါ်လာ တို့ဖြင့် ဖော်ပြရန်) ----------------

----------------

၅။ ရင်းနှီးမြှုပ်နှံမှု အကောင်အထည်ဖော်မည့် ခန့်မှန်းအချိန်ဇယား အပါအဝင် အစီအစဉ်ဖော်ပြချက်-

(က) တည်ဆောက်ရေးကာလသို့မဟုတ်
ပြင်ဆင်မှုကာလ(နှစ်၊လတို့ဖြင့်ဖော်ပြရန်) ------------------------------------

(ခ) စီးပွားဖြစ်စတင်မည့်ကာလ ------------------------------------
(နှစ်၊လတို့ဖြင့်ဖော်ပြရန်)

၆။ ခန့်ထားမည့် အလုပ်သမားဦးရေ -

(က) ပြည်တွင်း -----------------------------------------

(ခ) ပြည်ပ (ပညာရှင်/ကျွမ်းကျင်သူ) -----------------------------------------

၇။ ပြည်ပမှ ပြည်တွင်းသို့ ယူဆောင်လာမည့် မတည် ရင်းနှီးမြှုပ်နှံမှုများတွင် ငွေသားဖြင့် ယူဆောင်မှု ပမာဏ (Capital in-Cash)၊ ရင်းနှီးပစ္စည်း အဖြစ်ယူဆောင် လာမည့် ရင်းနှီးငွေပမာဏ (Capital in-Kinds) တို့အား တိကျစွာခွဲခြားသတ်မှတ် ဖော်ပြပေးရန်(မြန်မာကျပ် နှင့် အမေရိကန် ဒေါ်လာ တို့ဖြင့်ဖော်ပြရန်) -

(က) ငွေသားဖြင့်ယူဆောင်မှုပမာဏ ---------------------------------------------------

(ခ) ပစ္စည်းအဖြစ်ယူဆောင်လာမည့် ---------------------------------------------------
ရင်းနှီးငွေပမာဏ ---------------------------------------------------

**မှတ်ချက်။** ရင်းနှီးမြှုပ်နှံသူသည် ရင်းနှီးမြှုပ်နှံမှုနှင့် သက်ဆိုင်သော လျှို့ဝှက်ထိန်းသိမ်းရမည့် သတင်း အချက်အလက်များအား ထုတ်ပြန်ခြင်းမှ ရှောင်ကြဉ်ရန် ကော်မရှင်ထံ တင်ပြတောင်း ဆိုနိုင်သည်။

## ကတိဝန်ခံချက်

အထက်ဖော်ပြပါ လျှောက်ထားသူမှပေးအပ်သည့် အချက်အလက်များအားလုံးသည် မှန်ကန်မှုရှိပါကြောင်းအာမခံပါသည်။

ဤအဆိုပြုချက်တွင် ခွင့်ပြုမိန့်ထုတ်ပေးရန်အတွက် ကော်မရှင်မှ စိစစ်ရာ၌ လိုအပ်သည့် အချက်အလက်များကို လျှောက်ထားသူကပေးအပ်ရန် ပျက်ကွက်ပါက အဆိုပြုချက်ကို ငြင်းပယ်ခြင်း သို့မဟုတ် စိစစ်ရာ၌ မလိုလားအပ်သည့် နှောင့်နှေးကြန့်ကြာခြင်းတို့ ဖြစ်ပေါ်နိုင်ကြောင်း ကောင်းစွာ သဘောပေါက်နားလည်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ချမှတ်မည့် စည်းမျဉ်းစည်းကမ်းများကိုလည်း လိုက်နာမည်ဖြစ်ကြောင်းဝန်ခံကတိပြုအပ်ပါသည်။

လျှောက်ထားသူလက်မှတ် .................

အမည် ......... Ye Win .........

Managing Director

ရာထူး ......... Yadana Su Company Limited .........

ဌာန/ကုမ္ပဏီတံဆိပ် .................

ပူးတွဲ (၂)

မတည်ငွေရင်း နှစ်အလိုက်ထည့်ဝင်မည့်အခြေအနေ

| စဉ် | အကြောင်းအရာ | ပထမနှစ် (ကျပ်သန်း) | ဒုတိယနှစ် (ကျပ်သန်း) | တတိယနှစ် (ကျပ်သန်း) | စတုတ္ထနှစ် (ကျပ်သန်း) | ပဉ္စမနှစ် (ကျပ်သန်း) |
|---|---|---|---|---|---|---|
| ၁။ | ကျွန်းချောင်းမှ စက်ပစ္စည်းများ ပြောင်းရွှေ့တပ်ဆင် နေရာချထားခြင်း၊ စက်များစမ်းသပ်လည်ပတ်ခြင်း | ၂၅၀ | ၂၅၀ | | | |
| ၂။ | Water Treatment များ တပ်ဆင်ခြင်း၊ Cryogenic Pump အသစ်လဲလှယ်ခြင်း၊ Safety equipments , QAQC Unit နှင့် Insulation များတပ်ဆင်ခြင်း | ၁၀၀ | ၁၀၀ | | | |
| ၃။ | ဆလင်ဒါအိုးများ၊ ဘောက်ဆာကားများ၊ ထရပ်ကားများ ဖြည့်တင်းခြင်း | ၆၅၀ | ၂၀၀ | ၁၅၀ | ၁၅၀ | ၁၅၀ |
| ၄။ | လုပ်ငန်းလည့်ပတ်ရန်ပုံငွေ | ၁၀၀၀ | | | | |
| | စုစုပေါင်း | ၂၀၀၀ | ၅၅၀ | ၁၅၀ | ၁၅၀ | ၁၅၀ |

**မတည်ငွေရင်း၏ အသေးစိတ်စာရင်း-**

| | | |
|---|---|---|
| ၁။ | ကျွန်းချောင်းမှ စက်ပစ္စည်းများ ပြောင်းရွှေ့တပ်ဆင်နေရာချထားခြင်း စက်များစမ်းသပ်လည်ပတ်ခြင်း | ၅၀၀ ကျပ်သန်း |
| ၂။ | Water Treatment များတပ်ဆင်ခြင်း၊ Cryogenic Pump အသစ်လဲလှယ်ခြင်း၊ Safety equipments, QAQC Unit နှင့် Insulation များ တပ်ဆင်ခြင်း | ၂၀၀ ကျပ်သန်း |
| ၃။ | ဆလင်ဒါအိုးများ၊ ဘောက်ဆာကားများ၊ ထရပ်ကားများ ဖြည့်တင်းခြင်း | ၁၃၀၀ ကျပ်သန်း |
| | **စုစုပေါင်း** | **၂၀၀၀ ကျပ်သန်း** |

**လုပ်ငန်းလည်ပတ်ရန်ပုံငွေ**

| | | |
|---|---|---|
| ၁။ | မင်းဘူးမှ ဝယ်ယူသော LPG တန် (၂၀၀) | ၁၅၀ ကျပ်သန်း |
| ၂။ | ဓာတ်ငွေ့၊ လောင်စာ၊ လျှပ်စစ်၊ လစာနှင့်စရိတ် | ၄၅၀ ကျပ်သန်း |
| ၃။ | ပြင်ပမှ လောင်စာတန်ဖိုး | ၄၀၀ ကျပ်သန်း |
| | **စုစုပေါင်း** | **၁၀၀၀ ကျပ်သန်း** |

**ဆလင်ဒါအိုးများဝယ်ယူခြင်း**

| | | |
|---|---|---|
| ပရိုပိန်း | ၅၀kg (၂၅၀၀အိုး × ၅၀၀၀၀ကျပ်) | ၁၂၅ ကျပ်သန်း |
| ဗြူတိန်း | ၅၀kg (၂၅၀၀အိုး × ၅၀၀၀၀ကျပ်) | ၁၂၅ ကျပ်သန်း |
| ဗြူတိန်း | ၂၀kg (၁၀၀၀၀အိုး × ၃၄၀၀၀ကျပ်) | ၃၄၀ ကျပ်သန်း |
| ဗြူတိန်း | ၁၀kg (၁၀၀၀၀အိုး × ၂၈၀၀၀ကျပ်) | ၂၈၀ ကျပ်သန်း |
| ဗြူတိန်း | ၅kg (၁၀၀၀၀အိုး × ၂၃၀၀၀ကျပ်) | ၂၃၀ ကျပ်သန်း |
| Gas - ဘောက်ဆာကား | (၃စီး × ၃၀သန်း) | ၉၀ ကျပ်သန်း |
| ဆီ-ဘောက်ဆာကား | (၄စီး × ၂၅သန်း) | ၁၀၀ ကျပ်သန်း |
| | | ၁၃၀၀ ကျပ်သန်း |

(1)

၂။ ရည်ညွှန်းချက်(၁)ပါ စာချုပ်(မူကြမ်း)နှင့်စပ်လျဉ်း၍ ရည်ညွှန်းချက်(၂)ပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာသဖြင့် ပြည်ထောင်စုရှေ့နေချုပ်ရုံးကစိစစ်ပြီး ရည်ညွှန်းချက်(၃) ပါစာဖြင့် သဘောထားမှတ်ချက်ပြန်ကြားခဲ့ပါသည်။

၃။ ဤရုံး၏ ရည်ညွှန်းချက်(၃)ပါ အကြံပြုချက်အပိုဒ် ၅ အပါအဝင် ဤရုံး၏ အကြံပြု ချက်များအပေါ် ရှင်းလင်းတင်ပြပြီး အကြံပြုချက်များအတိုင်း ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြ လျက်စာချုပ်(မူကြမ်း)အား ပြန်လည်ပြုစု၍ရည်ညွှန်းချက်(၁)ပါစာဖြင့် ထပ်မံသဘောထားမှတ်ချက် တောင်းခံခြင်းဖြစ်ပါသည်။

၄။ ရည်ညွှန်းချက်(၁)ပါစာနှင့်အတူ ပြန်လည်ပြုစုပေးပို့လာသော စာချုပ်(မူကြမ်း)၌ ဓာတ်ငွေ့ရည်အရောင်းဆိုင်(၄)ဆိုင်အား ငှားရမ်းသည့်စာချုပ်များကို ရေနံဓာတ်ငွေ့ရည်စက်ရုံ(၂)ရုံ နှင့်စပ်လျဉ်း၍ ချုပ်ဆိုမည့် ငှားရမ်းခြင်းနှင့် အကျိုးအမြတ်ခွဲဝေခြင်း သဘောတူစာချုပ်(မူကြမ်း)၏ နောက်ဆက်တွဲစာချုပ်များအဖြစ် ပူးတွဲဖော်ပြထားသည်ကို တွေ့ရှိရပါသည်။

၅။ သို့ပါ၍ ရည်ညွှန်းချက်(၁)ပါစာဖြင့် ပြန်လည်ပြုစုပေးပို့လာသော စာချုပ်(မူကြမ်း) အား ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုပြန်ကြားအပ်ပါသည် -

(က) စာချုပ်(မူကြမ်း) အပိုဒ် ၂၂ ၌ အငှားချထားခြင်းခံရသူသို့ အပြီးကူးပြောင်း မည့် ဝန်ထမ်းများနှင့်ပတ်သက်၍ နိုင်ငံ့ဝန်ထမ်းဥပဒေနှင့်အညီ ဆောင်ရွက် သင့်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)၌ စာချုပ်ဝင်အချင်းချင်းဆက်သွယ်အကြောင်းကြားရမည့် လိပ်စာ၊ ဖုန်းနံပါတ်၊ အီးမေးလ်တို့အား သီးခြားခေါင်းစဉ်ဖြင့် ဖော်ပြသင့်ပါ သည်၊

(ဂ) စာချုပ်(မူကြမ်း)ပါ ကွက်လပ်များကို စာချုပ်ချုပ်ဆိုချိန်၌ ပြည့်စုံစွာဖော်ပြ ထားပြီးဖြစ်ရန် လိုအပ်ပါသည်။

၆။ ရည်ညွှန်းချက်(၁)ပါစာဖြင့် ပေးပို့လာသာ စာချုပ်(မူကြမ်း)၏ နောက်ဆက်တွဲများ ဖြစ်သော ရေနံဓာတ်ငွေ့ရည်ဆိုင် (မြောက်ဒဂုံ)၊ (အလုံ) (အင်းစိန်)(မှော်ဘီ) ငှားရမ်းခြင်းအတွက်

နောက်ဆက်တွဲသဘောတူစာချုပ်(မူကြမ်း) ၄ ရပ်သည် ငှားရမ်းမည့်ဆိုင်နေရာများ မတူညီသော်လည်း စာချုပ်ပုံစံတစ်မျိုးတည်းပြုစုလာ၍ တစ်ပေါင်းတည်းစိစစ်ရာ ဥပဒေကြောင်းအရ မှတ်ချက်ပြုရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၇။ စာချုပ်(မူကြမ်း)များပါ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀-၄-၂၀၁၇ ရက်စွဲဖြင့် ထုတ်ပြန်ခဲ့သော အမိန့်ကြော်ငြာစာအမှတ်- ၁၅/ ၂၀၁၇ ပါ သက်ဆိုင်ရာဝန်ကြီးဌာနများ၏ အတည်ပြုချက်ဖြင့် ဆောင်ရွက်နိုင်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများ၏ ခေါင်းစဉ်အောက်ရှိ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ အတည်ပြုချက်ရယူဆောင်ရွက်ရမည့်လုပ်ငန်းများ၏ အမှတ်စဉ် ၄ ၌ ရေနံ၊ သဘာဝဓာတ်ငွေ့နှင့် ရေနံထွက်ပစ္စည်းများ တင်သွင်း/ တင်ပို့၊ သယ်ယူ၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများနှင့် ယင်းလုပ်ငန်းများဆောင်ရွက်နိုင်ရန်အတွက် လိုအပ်သည့် သိုလှောင်ကန်များ၊ ဆီတင်ဆီချဆိပ်ခံတံတားများ ပိုက်လိုင်းများ၊ ဆက်စပ်ကရိယာပစ္စည်းများ အကောင်အထည်ဖော်ဆောင်ရွက်ခြင်းလုပ်ငန်းများအားလည်းကောင်း၊ အမှတ်စဉ် ၆ ၌လည်း ရေနံဓာတုဗေဒစက်ရုံ အမျိုးအစား အမျိုးမျိုးအသစ်တည်ဆောက်တပ်ဆင်ခြင်း၊ စက်ရုံအဟောင်းများကို ရင်းနှီးမြှုပ်နှံမှုဖြင့် မွမ်းမံပြုပြင်တည်ဆောက်တပ်ဆင်ခြင်းနှင့် လုပ်ငန်းများ အကောင်အထည်ဖော်ဆောင်ရွက်ခြင်းလုပ်ငန်းများအားလည်းကောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ သို့ပါ၍ စာချုပ်(မူကြမ်း)ပါ လုပ်ငန်းများဆောင်ရွက်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀-၄-၂၀၁၇ ရက်စွဲဖြင့် ထုတ်ပြန်ခဲ့သော အမိန့်ကြော်ငြာစာအမှတ်- ၁၅/ ၂၀၁၇ အရ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ အတည်ပြုချက်ရရှိရန် လိုအပ်ပါသည်။

၈။ စာချုပ်(မူကြမ်း)များပါ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်စပ်လျဉ်း၍ စွမ်းအင်ဝန်ကြီးဌာန၏ ၂၈-၄-၂၀၁၃ ရက်နေ့က ထုတ်ပြန်သော အမိန့်ကြော်ငြာစာ အမှတ်- ၁၀၀/ ၂၀၁၃ ပါ စည်းကမ်းချက်များနှင့်အညီ သက်ဆိုင်ရာဝန်ကြီးဌာနများမှ လိုင်စင်များ လျှောက်ထားရယူရန် လိုအပ်မည်ဖြစ်ပါသည်။

၉။ ယခုစာချုပ်(မူကြမ်း)နှင့် နောက်ဆက်တွဲ(က)(ခ)(ဂ)(ဃ)ပါ စာချုပ်(မူကြမ်း)များကို မချုပ်ဆိုမီ စီးပွားရေးရာကော်မတီမှတစ်ဆင့် ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက်ရယူရန် လိုအပ်မည်ဖြစ်ပါသည်။

၁၀။ ဤစာချုပ်(မူကြမ်း)နှင့် နောက်ဆက်တွဲ(က)(ခ)(ဂ)(ဃ)ပါ စာချုပ်(မူကြမ်း)များကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန်အကြံပြုပါသည်။

၁၁။ ရတနာစုကုမ္ပဏီလီမိတက်သည် ဥပဒေအရတရားဝင်ဖွဲ့စည်းထားသော ကုမ္ပဏီဟုတ်မဟုတ်၊ စာချုပ်ပါလုပ်ငန်းကိုလုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိမရှိ၊ စာချုပ်တွင်လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ်စသည်တို့နှင့်စပ်လျဉ်း၍ ကြိုတင်စိစစ်ရန်လိုအပ်မည်ဖြစ်ပါသည်။

၁၂။ ဤစာချုပ်(မူကြမ်း)နှင့် နောက်ဆက်တွဲ(က)(ခ)(ဂ)(ဃ)ပါ စာချုပ်(မူကြမ်း)များကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်စီပေးပို့ရန် မေတ္တာရပ်ခံအပ်ပါသည်။

(signature) 20/9/17

ပြည်ထောင်စုရှေ့နေချုပ်(ကိုယ်စား)
(ဒေါက်တာသီတာဦး၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ

၁၅၃

နောက်ဆက်တွဲ(၄)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး

စာအမှတ်၊ စဆ-၁/ ၁၄၀ (၃၅ /၂၀၁၇)

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဧပြီလ (၁၂) ရက်

သို့

ပြည်ထောင်စုဝန်ကြီး

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ "မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့် ရတနာစုကုမ္ပဏီလီမိတက်တို့အကြား ကျွန်းချောင်းမှရွှေ့ပြောင်းမည့် ရေနံဓာတ်ငွေ့ရည်စက်ရုံအပါအဝင် ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံနှင့် ရန်ကုန်မြို့ရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(၃)ဆိုင်၊ မှော်ဘီမြို့ရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင် မြေနေရာတို့အား ငှားရမ်းလုပ်ကိုင်ခြင်း သဘောတူစာချုပ်" မူကြမ်းအပေါ် သဘောထားမှတ်ချက်တောင်းခံခြင်း

ရည်ညွှန်းချက်။ (၁) လိပ်မူပါရုံး၏ ၂၃-၃-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ စွမ်းအင်/မူဝါဒ- ဥပဒေ-လုပ်ငန်းစစ်/၀၄(၂၃၀/၂၀၁၇)

(၂)နိုင်ငံတော်သမ္မတရုံး၏ ၁၀-၄-၂၀၁၇ ရက်စွဲပါ ညွှန်ကြားချက်အမှတ်၊ ၁/၂၀၁၇

၁။ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ "မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့်ရတနာစုကုမ္ပဏီလီမိတက်တို့အကြား ကျွန်းချောင်းမှရွှေ့ပြောင်းမည့် ရေနံဓာတ်ငွေ့ရည်စက်ရုံအပါအဝင် ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံနှင့် ရန်ကုန်မြို့ရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(၃)ဆိုင်၊ မှော်ဘီမြို့ရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်မြေနေရာတို့အား ငှားရမ်းလုပ်ကိုင်ခြင်း သဘောတူစာချုပ်" မူကြမ်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်း(၁)ပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အထက်ပါကိစ္စနှင့်စပ်လျဉ်း၍ ဤရုံး၏သဘောထားများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) နိုင်ငံတော်သမ္မတရုံး၏ ရည်ညွှန်းချက်(၂)ညွှန်ကြားချက်အမှတ် ၁/၂၀၁၇ ပါ အစိုးရဌာနအဖွဲ့အစည်းများ၏ တည်ဆောက်ခြင်း၊ ပစ္စည်းဝယ်ယူခြင်း၊ ဝန်ဆောင်မှုရယူခြင်း၊ ငှားရမ်းခြင်းနှင့်ရောင်းချခြင်းများဆောင်ရွက်ရာတွင် လိုက်နာရမည့် တင်ဒါလုပ်ထုံးလုပ်နည်းအရ အစိုးရဌာန၊ အဖွဲ့အစည်းများ၏ ငှားရမ်းခြင်းနှင့်ပတ်သက်သည့် လိုက်နာရမည့် စည်းကမ်းသတ်မှတ်ချက်နှင့်အညီ တိကျစွာလိုက်နာဆောင်ရွက်ရန်၊

(ခ) စာရင်းစစ်ဆေးမှုနှင့်စပ်လျဉ်း၍ ပြင်ပစာရင်းစစ်များမှ စစ်ဆေးထားသော ဘဏ္ဍာရေးရှင်းတမ်းနှင့် လုပ်ငန်းများအား လိုအပ်ပါက ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး၏ စစ်ဆေးမှုကို ခံယူရန်၊

(ဂ) မကြာမီ ပြဋ္ဌာန်းလာတော့မည့် ပြည်သူ့ဘဏ္ဍာစီမံခန့်ခွဲမှုဆိုင်ရာဥပဒေ၊ ပစ္စည်းဝယ်ယူရေးဥပဒေများနှင့်အညီ တိကျစွာ လိုက်နာဆောင်ရွက်ရန်၊

၃။ ထို့ပြင် အကြောင်းအရာပါကိစ္စရပ်နှင့် စပ်လျဉ်း၍ စီးပွားရေးရာတော်မတီမှတဆင့် ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြဆောင်ရွက်ရန်လိုအပ်ပါသည်။

ပြည်ထောင်စုစာရင်းစစ်ချုပ်(ကိုယ်စား)
(ခင်စန်းဦး၊အမြဲတမ်းအတွင်းဝန်)

မိတ္တူ
ရုံးလက်ခံ
မျှော

၁၅၅

နောက်ဆက်တွဲ(၅)

(၁)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

စာအမှတ်၊ မဗဘ/ ဘဏ်စိစစ်/ ၄(၇၉/၂၀၁၇)

ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၅ ရက်

သို့

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ ။ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့် ရတနာစုကုမ္ပဏီတို့ချုပ်ဆိုမည့် ညောင်တုန်း ရေနံဓာတ်ငွေ့ရည်စက်ရုံနှင့် ရန်ကုန်မြို့ရှိ ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင် (၃)ဆိုင်၊ မှော်ဘီရှိ ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်မြေနေရာတို့အား ငှားရမ်းလုပ်ကိုင်ခြင်း သဘောတူစာချုပ်(မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက် ။ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ ၂၃-၃-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ စွမ်းအင်/ မူဝါဒ-ဥပဒေ-လုပ်ငန်းစစ်/ ၀၄ (၂၃၀/၂၀၁၇)

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနက မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့် ရတနာစုကုမ္ပဏီလီမိတက်တို့အကြား ချုပ်ဆိုမည့် ကျွန်းချောင်းမှ ရွှေ့ပြောင်းမည့် ရေနံဓာတ်ငွေ့ရည်စက်ရုံအပါအဝင် ညောင်တုန်း ရေနံဓာတ်ငွေ့ရည်စက်ရုံနှင့် ရန်ကုန်မြို့ရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင် (၃)ဆိုင်၊ မှော်ဘီရှိ ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်မြေနေရာတို့အား ငှားရမ်းလုပ်ကိုင်ခြင်း သဘောတူစာချုပ်(မူကြမ်း)အပေါ် ရည်ညွှန်းချက်ပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာခြင်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံတော်ဗဟိုဘဏ်အနေဖြင့် သဘောထားမှတ်ချက်ပြုရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)

(ခင်စောဦး၊ ဒုတိယဥက္ကဋ္ဌ)

နောက်ဆက်တွဲ(က)

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း

နှင့်

ရတနာစုကုမ္ပဏီလီမိတက်

တို့အကြား

ကျွန်းချောင်းရေနံဓါတ်ငွေ့ရည်စက်ရုံကို

ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံမြေနေရာသို့

ပြောင်းရွှေ့တပ်ဆင်၍

ဌာနပိုင်မြေနှင့်တကွ ရေနံဓာတ်ငွေ့ရည်စက်ရုံ(၂)ရုံနှင့်

ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင် (၄)ဆိုင်တို့ကိုငှားရမ်းခြင်း၊

စက်ရုံလည်ပတ်ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးရောင်းချခြင်းနှင့်

အမြတ်ခွဲဝေမှုသဘောတူစာချုပ်

စာချုပ်အမှတ်(              )/

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊          လ၊        ရက်        နေပြည်တော်

# လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

# မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း

# နှင့်

# ရတနာစုကုမ္ပဏီလီမိတက်

# တို့အကြား

ကျွန်ချောင်းရေနံဓာတ်ငွေ့ရည်စက်ရုံကိုညောင်တုန်းရေနံဓာတ်ငွေ့ရည်
စက်ရုံမြေနေရာသို့ ပြောင်းရွှေ့တပ်ဆင်၍ ဌာနပိုင်မြေနှင့်တကွ
ရေနံဓာတ်ငွေ့ရည်စက်ရုံ(၂)ရုံနှင့် ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်
(၄)ဆိုင်တို့ကိုငှားရမ်းခြင်း၊
စက်ရုံလည်ပတ်ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးရောင်းချခြင်းနှင့် အမြတ်ခွဲဝေမှု
သဘောတူစာချုပ်

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း ကြီးကြပ်မှုအောက်ရှိ ကျွန်းချောင်း ရေနံဓာတ်ငွေ့ရည်စက်ရုံကို ညောင်တုန်း ရေနံဓာတ်ငွေ့ရည်စက်ရုံမြေနေရာသို့ ပြောင်းရွှေ့တပ်ဆင်၍ ဌာနပိုင်မြေ နှင့်တကွ စက်ရုံ(၂)ရုံကို ငှားရမ်းခြင်းနှင့် စက်ရုံလည်ပတ်ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးရောင်းချခြင်းနှင့် အမြတ်ခွဲဝေသောစနစ်ဖြင့်ဆောင်ရွက်ရန် ( .၂၀၁၇) ရက်နေ့က ကျင်းပသော ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ အစည်းအဝေးအမှတ်စဉ် ( .၂၀၁၇) ခွင့်ပြုချက်အရ ရတနာစုကုမ္ပဏီလီမိတက်နှင့် သဘောတူစာချုပ် ချုပ်ဆိုခြင်းဖြစ်ပါသည်။ ပြည်ထောင်စုအစိုးရအဖွဲ့၏အစည်းအဝေးဆုံးဖြတ်ချက်အား နောက်ဆက်တွဲ ( )ဖြင့် ပူးတွဲဖော်ပြပါမည်။

ဤငှားရမ်းခြင်းနှင့်အကျိုးအမြတ်ခွဲဝေခြင်း သဘောတူစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ နေပြည်တော်တွင် ၂၀၁၇ ခုနှစ်၊ လ၊ ( )ရက်နေ့၌ ဦးသန့်စင် ဦးဆောင်ညွှန်ကြားရေးမှူး၊ "မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း" လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနကိုယ်စားပြုသော (ဤမှနောင်တွင်"အငှားချထားသူ" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ပြီး ယင်းဖော်ပြချက်၏ စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်)က တစ်ဖက်နှင့် မန်နေးဂျင်းဒါရိုက်တာ ဦးရဲဝင်း၊ နိုင်ငံသားစိစစ်ရေးကဒ်ပြားအမှတ် (၁၂/ကခက(နိုင်)၀၀၀၀၂၁) ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းထားသည့် ရတနာစုကုမ္ပဏီလီမိတက်၊ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ (၂)ရပ်ကွက်၊ သီရိ(၃)လမ်း၊ ခြံအမှတ်(၁) (ဤမှနောင်တွင် "အငှားချထားခြင်းခံရသူ"ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ပြီး ယင်းဖော်ပြချက်၏ စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်ပါသည်)က အခြားတစ်ဖက်တို့သည် အောက်ပါအတိုင်း စာချုပ် ချုပ်ဆိုကြပါသည်။

## ရည်ရွယ်ချက်

၁။ "အငှားချထားသူ" ပိုင်ဆိုင်သော ဧရာဝတီတိုင်းဒေသကြီး၊ ညောင်တုန်းမြို့နယ်၊ ကညင်ကောက်ကြီး ကျေးရွာအုပ်စုရှိ ရေနံဓာတ်ငွေ့ရည်စက်ရုံတွင် "အငှားချထားခြင်းခံရသူ"မှ ရပ်နားထားသောကျွန်းချောင်းရေနံဓါတ်ငွေ့ရည်စက်ရုံကို ညောင်တုန်းစက်ရုံသို့ ပြောင်းရွှေ့မည်ဖြစ်သည်။ မြန်မာ့ရေနံနှင့်သဘာဝဓာတ်ငွေ့လုပ်ငန်းမှ သဘာဝဓာတ်ငွေ့များဝယ်ယူပြီး ရေနံဓာတ်ငွေ့ရည်စက်ရုံ(၂)ရုံအား စက်လည်ပတ်ကာ ရေနံဓာတ်ငွေ့ရည်

များထုတ်လုပ်ခြင်း၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းပိုင် အရောင်းဆိုင်(၄)ဆိုင်မှ ဖြန့်ဖြူးရောင်းချခြင်း၊ သတ်မှတ်ထားသည့် လိုင်စင်များရယူ၍ ရေနံဓာတ်ငွေ့ရည်များကိုတင်သွင်းခြင်း၊ သိုလှောင်ခြင်းနှင့်ဖြန့်ဖြူးရောင်းချခြင်းတို့အား ဆောင်ရွက်နိုင်ရန်ရည်ရွယ်လျက် ဤစာချုပ်ကို နှစ်ဖက်သဘောတူ ချုပ်ဆိုခြင်း ဖြစ်ပါသည်။

**အဓိပ္ပါယ်ဖွင့်ဆိုခြင်း**

၂။ စာချုပ်ပါစကားရပ်များကို အောက်ပါအတိုင်း အဓိပ္ပါယ်ဖွင့်ဆိုပါသည် -

(က) "အငှားချထားသူ"ဆိုသည်မှာ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော "မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း" လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနကို ဆိုလိုပါသည်။ ယင်းဖော်ပြချက်၏ စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက် ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏ ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။

(ခ) "အငှားချထားခြင်းခံရသူ" ဆိုသည်မှာ မန်နေးဂျင်းဒါရိုက်တာ ဦးရဲဝင်း၊ နိုင်ငံသားစိစစ်ရေးကဒ်ပြားအမှတ် (၁၂/ကခက(နိုင်) ၀၀၀၀၂၁) ကိုယ်စားပြုသော "ရတနာစုကုမ္ပဏီလီမိတက်" ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ (၂)ရပ်ကွက်၊ သီရိ(၃)လမ်း၊ ခြံအမှတ် (၁)ကိုဆိုလိုပါသည်။ ယင်းဖော်ပြချက်၏ စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက် ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏ ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်း ခံရသူများပါဝင်သည်။

(ဂ) "စာချုပ်"ဆိုသည်မှာ ကျွန်းချောင်းမှ ရွှေ့ပြောင်းမည့်ရေနံဓာတ်ငွေ့ရည်စက်ရုံ အပါအဝင် ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံ၏ မြေနေရာ အပါအဝင် စက်ရုံ၊ ရန်ကုန်မြို့ရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(၃)ဆိုင်၊ မော်ဘီရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(၁)ဆိုင်တို့အား ငှားရမ်းလုပ်ကိုင်ခြင်းနှင့် အမြတ်ခွဲဝေခြင်းတို့အတွက် ဤသဘောတူစာချုပ်နှင့် နောက်ဆက်တွဲ စာရွက်စာတမ်းများအားလုံးကို ဆိုလိုသည်။

(ဃ) "ရေနံဓာတ်ငွေ့ရည် (Liquefied Petroleum Gas – LPG)" ဆိုသည်မှာ ပရိုပိန်း ($C_3$)၊ ဗြူတိန်း ($C_4$)၊ ပရိုပိန်းနှင့် ဗြူတိန်း အရောတို့ကို ဆိုလိုသည်။

(င) “နက်ဖ်သာ” ဆိုသည်မှာ ရေနံဓာတ်ငွေ့ရည်စက်ရုံများတွင် သဘာဝဓာတ်ငွေ့မှ ရေနံဓာတ်ငွေ့ ရည်ထုတ်လုပ်ရာတွင် ရေနံဓာတ်ငွေ့ရည် နှင့်အတူ ပူးတွဲ ထွက်ရှိသည့် ပစ္စည်းတစ်မျိုးကို ဆိုလိုသည်။

(စ) “စက်လည်ပတ်ရက်”ဆိုသည်မှာ စက်ရုံလည်ပတ်ပြီး သဘာဝဓာတ်ငွေ့ စတင်သုံးစွဲသည့်အချိန်မှ သဘာဝဓာတ်ငွေ့သုံးစွဲမှု ရပ်ဆိုင်းသည့် အချိန်ထိ ရက်ဖြင့် ဖော်ပြခြင်းကိုဆိုလိုသည်။

(ဆ) “ဝန်ထမ်း”ဆိုသည်မှာ ငှားရမ်းစက်ရုံများနှင့် ဆိုင်များတွင် လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းမှ တရားဝင် ခန့်ထားသော အမြဲတမ်းဝန်ထမ်းများကိုဆိုလိုသည်။

(ဇ) “ကူးပြောင်းဝန်ထမ်း” ဆိုသည်မှာ “အငှားချထားခြင်းခံရသူ”သို့ “အငှားချထားသူ”မှ အပြီးကူးပြောင်းပေးမည့် ဝန်ထမ်းများကို ဆိုလို သည်။

**အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း**

၃။ “အငှားချထားသူ”သည် နောက်ဆက်တွဲများတွင် အသေးစိတ်ဖော်ပြထားသော မြေ၊ အဆောက်အဦများ၊ စက်ပစ္စည်းကိရိယာများနှင့် အခြားပုံသေပိုင် ပစ္စည်းများကို ပိုင်ဆိုင်သူဖြစ်ပြီး “အငှားချထားခြင်းခံရသူ”သည် စာချုပ်ကို အကောင်အထည်ဖော်ရန် ငွေကြေးပြည့်စုံပြီး စာချုပ်ပါလုပ်ငန်းကို သတ်မှတ်ချက်များအတိုင်း လုပ်ပိုင်ခွင့်ရှိသူ ဖြစ်ပါသည်။ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူများသည် ဤစာချုပ်ကို လက်မှတ်ရေးထိုးရန် အခွင့်အာဏာရှိသူများဖြစ်ကြောင်းကို အသီးသီးအာမခံကြပါသည်။

**ကျွန်းချောင်းရေနံဓာတ်ငွေ့ရည်စက်ရုံကို ညောင်တုန်းရေနံဓာတ်ငွေ့ရည် စက်ရုံမြေနေရာသို့ ပြောင်းရွှေ့ တပ်ဆင်ခြင်း**

၄။ မကွေးတိုင်းဒေသကြီး၊ ပခုက္ကူမြို့နယ်ရှိ ကျွန်းချောင်းရေနံဓာတ်ငွေ့ရည် စက်ရုံအတွက်ရရှိသည့် ကုန်ကြမ်းသဘာဝဓာတ်ငွေ့တွင် ရေနံဓာတ်ငွေ့ရည် ပါဝင်မှု (Mole %) လျော့နည်း ကျဆင်းလာသောကြောင့် စီးပွားရေးတွက်ချေကိုက်မထုတ်လုပ်နိုင်တော့သဖြင့် စက်ရုံအား ၅.၇.၂၀၁၃ ရက်နေ့မှစ၍ ရပ်နားထားရပါသည်။ ရပ်နားထားသော

ကျွန်းချောင်းရေနံဓာတ်ငွေ့ရည်စက်ရုံကို စက်ပစ္စည်းများအား ဖြုတ်သိမ်းခြင်း၊ ရွှေ့ပြောင်း သယ်ယူပို့ဆောင်ခြင်း၊ ပြန်လည်တပ်ဆင်ခြင်းနှင့် စမ်းသပ်လည်ပတ်ခြင်း ကုန်ကျစရိတ်များကို "အငှားချထားခြင်းခံရသူ"မှ ကျခံ၍ ညောင်တုန်းစက်ရုံမြေနေရာသို့ ပြောင်းရွှေ့ပြီး စက်လည်ပတ်ထုတ်လုပ်ဖြန့်ဖြူးရောင်းချမည်ဖြစ်ပါသည်။ ကျွန်းချောင်းရေနံဓာတ်ငွေ့ရည် စက်ရုံပြောင်းရွှေ့တပ်ဆင်ရာတွင် စက်ပစ္စည်းများနှင့်ဆက်စပ်ပစ္စည်းများ ပျက်စီးဆုံးရှုံးမှု ဖြစ်ပေါ်ပါက "အငှားချထားခြင်းခံရသူ"၏ ကုန်ကျစရိတ်ဖြင့် အစားထိုးတပ်ဆင် လဲလှယ်ပေးရမည်။

၅။ "အငှားချထားခြင်းခံရသူ"သည် ကျွန်းချောင်းရေနံဓာတ်ငွေ့ရည်စက်ရုံကို စာချုပ် သက်ဝင်သည့် နေ့မှ စ၍ (၃)လအတွင်း ပြောင်းရွှေ့ခြင်းလုပ်ငန်းများ စတင်ရမည်ဖြစ်ပြီး (၂)နှစ်အတွင်း စက်ရုံအား ညောင်တုန်းသို့ ပြောင်းရွှေ့ပြီးဖြစ်ရမည်။ စက်များပြောင်းရွှေ့ တပ်ဆင်ပြီး (၁)နှစ်အတွင်း စက်လည်ပတ်ရမည်။

## စက်ရုံလည်ပတ်ထုတ်လုပ်ဖြန့်ဖြူးခြင်း

၆။ "အငှားချထားခြင်းခံရသူ"သည် စာချုပ်အကျိုးသက်ရောက်သည့်နေ့မှစ၍ မြန်မာ့ရေနံနှင့်သဘာဝဓာတ်ငွေ့လုပ်ငန်းမှ သဘာဝဓာတ်ငွေ့အားဝယ်ယူပြီး ညောင်တုန်းရေနံဓာတ်ငွေ့ရည် စက်ရုံလည်ပတ်၍ ရေနံဓာတ်ငွေ့ရည်များ ချက်လုပ်သိုလှောင် ဖြန့်ဖြူးရောင်းချမည်ဖြစ်သည်။ ကျွန်းချောင်းရေနံဓာတ်ငွေ့ရည်စက်ရုံအား ညောင်တုန်း စက်ရုံသို့ ရွှေ့ပြောင်း တပ်ဆင်ပြီးပါက သဘာဝဓာတ်ငွေ့ထပ်မံတိုးမြှင့် ဝယ်ယူပြီး စက်ရုံ(၂)ရုံ လည်ပတ်၍ ရေနံဓာတ်ငွေ့ရည်များ ချက်လုပ်သိုလှောင်၊ ဖြန့်ဖြူးရောင်းချမည်ဖြစ်ပါသည်။

## ဖြန့်ဖြူးရောင်းချခြင်း

၇။ စက်ရုံ(၂)ရုံမှ ထွက်ရှိသည့် ကုန်ချောရေနံဓာတ်ငွေ့ရည်များနှင့် ပြည်တွင်း ပြည်ပမှ ဝယ်ယူတင်သွင်းမည့် ရေနံဓာတ်ငွေ့ရည်များကို ဖြန့်ဖြူး ရောင်းချရန် အတွက် မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းပိုင် ရန်ကုန်တိုင်းဒေသကြီးရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(၄)ဆိုင်ကို နောက်ဆက်တွဲစာချုပ်များအဖြစ် ချုပ်ဆိုငှားရမ်းပြီး ဖြန့်ဖြူး ရောင်းချမည်ဖြစ်သည်။ အဆိုပါရေနံဓါတ်ငွေ့ရည် အရောင်းဆိုင်(၄)ဆိုင်ကို ငှားရမ်းသည့်စာချုပ်များအား နောက်ဆက်တွဲ (က)(ခ)(ဂ)(ဃ)ဖြင့် ပူးတွဲ ဖော်ပြထားပါသည်။

**ငှားရမ်းခ**

၈။ ကုန်းတွင်းသဘာဝဓာတ်ငွေ့ အာမခံချက်ရှိသောကာလမှာ ခန့်မှန်း(၃)နှစ်ခန့် ဖြစ်ပါသည်။ သဘာဝဓာတ်ငွေ့ရရှိနိုင်မှုပမာဏနှင့် သဘာဝဓာတ်ငွေ့တွင် $C_3$, $C_4$ ပါဝင်မှု လျော့နည်းကျဆင်းလာ၍ မလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် စက်များလည်ပတ်ရန် စီးပွားရေးတွက်ခြေကိုက်မှုမရှိသည့် အခြေအနေများဖြစ်ပေါ်နိုင်သဖြင့် စက်ရုံ(၂)ရုံ၏ စက်လည်ပတ်ရက်ပေါ်မူတည်၍ ငှားရမ်းခနှုန်းများကို အောက်ပါ အဆင့်အတိုင်း ပေးချေမည်ဖြစ်သည်။ စာချုပ်အကျိုးသက်ရောက်ပြီးနောက် စက်လည်ပတ်ရက်မှာ တစ်နှစ်လျှင် စက်ပြင်ဆင်မွမ်းမံစစ်ဆေး ဆောင်ရွက်မှုကာလကို နုတ်ပယ်ပြီး စက်လည်ပတ်သည့် ရက်(၃၃၀)ကို အခြေခံတွက်ချက်ပါမည်။ အဆိုပါတွက်ချက်မှုသည် ကျွန်းချောင်း ရေနံဓါတ်ငွေ့ရည်စက်ရုံကို ညောင်တုန်းသို့ ရွှေ့ပြောင်းသည့် ကာလနှင့် သက်ဆိုင်ခြင်း မရှိစေရပါ-

(က) စက်လည်ပတ်ရက်(၂၀၀)အထက် ကျော်လွန်ခဲ့လျှင် စက်ရုံ၏(၁)နှစ်ငှားရမ်းခ ကျပ်သန်း ၃၂၀/- အား "အငှားချထားသူ"သို့ ပေးချေပါမည်။

(ခ) စက်လည်ပတ်ရက် (၁၅၀)မှ(၂၀၀)ရက်အတွင်း စက်လည်ပတ်ပါက စက်ရုံ၏ (၁)နှစ်ငှားရမ်းခ ကျပ်သန်း ၁၇၀/- အား "အငှားချထားသူ" သို့ ပေးချေပါမည်။

(ဂ) စက်လည်ပတ်ရက် (၁၅၀)အောက် လျော့နည်းနေလျှင် စက်ရုံ၏(၁)နှစ် ငှားရမ်းခ ကျပ်သန်း ၇၀/- အား "အငှားချထားသူ"သို့ ပေးချေပါမည်။

(ဃ) စက်ရုံလုံးဝလည်ပတ်မှုမရှိသည့် အခြေအနေတွင် စက်ရုံ၏(၁)နှစ်ငှားရမ်းခ ကျပ်သန်း ၂၀/-အား "အငှားချ ထားသူ"သို့ ပေးချေပါမည်။

၉။ စာချုပ်အကျိုးသက်ရောက်သည့်နေ့မှစ၍ စက်ရုံ၏(၁)နှစ်ငှားရမ်းခငွေကို "အငှားချထားခြင်းခံရသူ" မှငှားရမ်းမှုမစတင်မီ စာချုပ်အပိုဒ်(၈)အရ ကျသင့်သောအမြင့်ဆုံး ငှားရမ်းခကို (၁၂)လလျှင် တစ်ကြိမ် ရက်သတ္တပတ်(၁)ပတ်အတွင်း ကြိုတင်ပေးသွင်းရမည်။ ကြိုတင်၍ပေးသွင်းထားသော ငှားရမ်းခများကို ဘဏ္ဍာရေးနှစ် ကုန်ဆုံးချိန် တွင် စာချုပ်အပိုဒ်-၈ (က)(ခ)(ဂ)(ဃ)များအရ အမှန်တကယ် ကျသင့်သော ငှားရမ်းခများကို တွက်ချက်ပြီး ခြားနားချက်ကို နောင်နှစ်အတွက် ကြိုတင်ပေးသွင်းမည့် ငှားရမ်းခများမှ ခုနှိမ်ပေးရမည်။ ငှားရမ်းခကို "အငှားချထားသူ"မှ သတ်မှတ်ထားသည့် ဘဏ်ရှိ ငွေစာရင်းသို့ ပေးသွင်းရမည်။ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့ရက်တွင် ကျသင့်သော အမြင့်ဆုံးငှားရမ်းမှုတန်ဖိုး၏ (၁)လစာအား ပထမနှစ်အတွက် စပေါ်ငွေအဖြစ် ထားရှိရမည်။

၁၀။ (၅)နှစ်တစ်ကြိမ် စက်ရုံ၏(၁)နှစ်ငှားရမ်းခနှုန်းထားများအား ၎င်းအချိန်တွင် စာချုပ်အပိုဒ်(၈)အရ ကျသင့်နေသော ငှားရမ်းခ၏ (၂%)မှ (၅%)ထက် မပိုသော နှုန်းထားဖြင့် နှစ်ဦးနှစ်ဖက် ညှိနှိုင်းတိုးမြှင့် သတ်မှတ်ပေးချေရမည်။ သို့သော် ငှားရမ်းခနှုန်းတိုးမြှင့်ရာတွင် ငွေကြေး ဖောင်းပွမှု နှုန်းထက် လျော့နည်းမှုမရှိစေရ။

**အမြတ်ခွဲဝေမှု**

၁၁။ ရေနံဓာတ်ငွေ့ရည်ချက်လုပ်၊ သိုလှောင်၊ တင်သွင်း၊ ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းမှရရှိသည့် အကျိုးအမြတ်မှ စက်ရုံ(၂)ရုံငှားရမ်းခ၊ ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်(၄)ဆိုင် ငှားရမ်းခတို့နှင့် အမှန်တကယ် လုပ်ငန်းဆောင်ရွက်ကုန်ကျစရိတ်များကို နှုတ်ပယ်၍ ကျန်အသားတင် အကျိုးအမြတ်၏ ၅၁% အား "အငှားချထားခြင်းခံရသူ"မှ "အငှားချထားသူ" သို့ ခွဲဝေပေးရပါမည်။ ကျန် အကျိုးအမြတ် ၄၉% ကို "အငှားချထားခြင်းခံရသူ" မှ ရယူခွင့် ရှိပါမည်။ အကျိုးအမြတ်၏ ၅၁% ခွဲဝေရာတွင် တစ်နှစ်တစ်ကြိမ် ခွဲဝေရမည်။

**အငှားချထားသည့်ပစ္စည်းများ**

၁၂။ "အငှားချထားခြင်းခံရသူ"သည် အောက်ဖော်ပြပါ "အငှားချထားသူ"ပိုင် နောက်ဆက်တွဲများတွင် အသေးစိတ်ဖော်ပြထားသော စက်ရုံမြေနေရာ၊ အဆောက်အဦများ၊ စက်ပစ္စည်းကိရိယာများ၊ ရေနံဓာတ်ငွေ့ရည် ဘောက်ဆာများ၊ မော်တော်ယာဉ်များနှင့် အခြားပုံသေပိုင်ပစ္စည်းများကို ငှားရမ်း၍ ရေနံဓာတ်ငွေ့ရည်များထုတ်လုပ်ခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းများကို ဆောင်ရွက်ရမည်ဖြစ်ပါသည် -

**(က) ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံ**

| | | |
|---|---|---|
| (၁) စက်ရုံတည်နေရာ | : | ဧရာဝတီတိုင်းဒေသကြီး၊ ညောင်တုန်းမြို့နယ်၊ကညင်ကောက်ကြီးကျေးရွာအုပ်စု၊ ချောင်းဖျားကွင်း၊ကွင်းအမှတ် (၄၃၈) |
| (၂) စက်ရုံမြေနေရာအကျယ်အဝန်း | : | ၂၅.၉၉ ဧက (၁၀၅၁၇၈.၂ စတုရန်း မီတာ) |

(၃) အဆောက်အဦများ : နောက်ဆက်တွဲ (၁)
(၄) စက်ပစ္စည်းကိရိယာများ : နောက်ဆက်တွဲ (၂)
(၅) ဓာတ်ငွေ့ဘောက်ဆာများ : နောက်ဆက်တွဲ (၃)
(၆) ရုံးသုံးပရိဘောဂများ : နောက်ဆက်တွဲ (၄)
(၇) တည်နေရာပြပုံ : နောက်ဆက်တွဲ (၅)

**(ခ) ကျွန်းချောင်းရေနံဓာတ်ငွေ့ရည်စက်ရုံ**

(၁) စက်ရုံတည်နေရာ : မကွေးတိုင်းဒေသကြီး၊ ပခုက္ကူမြို့နယ်၊(ကျွန်းချောင်း) မှ ညောင်တုန်းမြို့နယ်၊ကညင်ကောက်ကြီး ကျေးရွာအုပ်စု စက်ရုံဇရိယာသို့ပြောင်းရွှေ့ပါမည်။
(၂) အဆောက်အဦများ : နောက်ဆက်တွဲ (၆)
(၃) စက်ပစ္စည်းကိရိယာများ : နောက်ဆက်တွဲ (၇)
(၄) ဓာတ်ငွေ့ဘောက်ဆာများ : နောက်ဆက်တွဲ (၈)
(၅) ရုံးသုံးပရိဘောဂများ : နောက်ဆက်တွဲ (၉)

**စာချုပ်အကျိုးသက်ရောက်သည့်နေ့**

၁၃။ စာချုပ်အကျိုးသက်ရောက်သည့်နေ့ကို “အငှားချထားသူ”နှင့် “အငှားချထားခြင်းခံရသူ”တို့ လက်မှတ် ရေးထိုးပြီးနောက် လုပ်ငန်း ဆောင်ရွက်မှုအာမခံ(Performance Bank Guarantee) ပေးသွင်းပြီးသည့် နေ့မှစ၍ သတ်မှတ်ရမည်။

**လုပ်ငန်းဆောင်ရွက်မှု အာမခံနှင့် သက်တမ်း**

၁၄။ “အငှားချထားခြင်းခံရသူ”သည် စာချုပ်လက်မှတ်ရေးထိုးပြီး တစ်လအတွင်း လုပ်ငန်းဆောင်ရွက်မှုအာမခံအဖြစ် စာချုပ်အပိုဒ်-၈ အရ ကျသင့်မည့်အမြင့်ဆုံးစက်ရုံ၏(၁)နှစ် ငှားရမ်းခငွေပေါ်တွင် (၁၀%)နှင့် ညီမျှသော မြန်မာကျပ်ငွေကို (၅)နှစ်သက်တမ်းရှိ ဘဏ်အာမခံဖြင့် မြန်မာ့စီးပွားရေးဘဏ်မှတဆင့် “အငှားချထားသူ”ထံ မူရင်းပေးသွင်းရမည်။ စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်ပါက လုပ်ငန်းဆောင်ရွက်မှုအဖြစ် ပေးသွင်းထားသော ဘဏ်အာမခံကို “အငှားချထားသူ”မှ သိမ်းယူမည်။

၁၅။ ဘဏ်အာမခံ၏သက်တမ်းသည် (၅)နှစ်ဖြစ်ပြီး သက်တမ်းမကုန်ဆုံးမီ တစ်လ မတိုင်မီ "အငှားချထားခြင်းခံရသူ"သည် ငှားရမ်းသက်တမ်း ကုန်ဆုံးသည်အထိ (၅)နှစ် တစ်ကြိမ် ပြန်လည်တင်သွင်းရမည်။ မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ တည်ဆဲ ဥပဒေများအတိုင်း လိုက်နာဆောင်ရွက်ရပါမည်။

**ငှားရမ်းမည့်အချိန်ကာလ**

၁၆။ (       .၂၀၁၇)ရက်နေ့က ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့ရုံး အစည်းအဝေး အမှတ်စဉ် (       ) ဆုံးဖြတ်ချက်အရ စက်ရုံ၏ငှားရမ်းအချိန်ကာလမှာ စာချုပ်အကျိုးသက်ရောက် သည့်နေ့မှစ၍ (၃၀)နှစ် ဖြစ်ပါသည်။ ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ အစည်းအဝေးဆုံးဖြတ်ချက်အား နောက်ဆက်တွဲအဖြစ် ပူးတွဲထားရှိပါမည်။

**စာချုပ်သက်တမ်း**

၁၇။ စာချုပ်သက်တမ်းသည် စာချုပ် အကျိုးသက်ရောက်သည့် နေ့မှစ၍ နှစ်(၃၀) ဖြစ်ပါသည်။ "အငှားချထားခြင်းခံရသူ"က စာချုပ်သက်တမ်း မကုန်မီ(၆)လ ကြိုတင်၍ ဆက်လက်ငှားရမ်းလိုကြောင်း တင်ပြလာလျှင် "အငှားချထားသူ"မှလည်း သဘောတူညီပါက တစ်ကြိမ်လျှင်(၅)နှစ်ဖြင့် နှစ်ကြိမ် သက်တမ်းတိုးမြှင့် ငှားရမ်းဆောင်ရွက်နိုင်သည်။

**ရင်းနှီးမြှုပ်နှံမှုပမာဏ**

၁၈။ "အငှားချထားခြင်းခံရသူ"မှ ကနဦးရင်းနှီးမြှုပ်နှံမှုအဖြစ် ကျွန်းချောင်း စက်ရုံမှ စက်ပစ္စည်းများ ပြောင်းရွှေ့တပ်ဆင် နေရာချထားခြင်းလုပ်ငန်းများ အပါအဝင် စက်ပစ္စည်း များဝယ်ယူတပ်ဆင်ခြင်း လုပ်ငန်းများအတွက် ကျပ်သန်း (၇၀၀)ကို စာချုပ်အကျိုးသက်ရောက်သည့်နေ့မှစ၍ ပထမ(၅)နှစ်အတွင်း လည်းကောင်း၊ ဆလင်ဒါအိုး၊ ဘောက်ဆာကား၊ ထရပ်ကားများဝယ်ယူခြင်းအတွက် ကျပ်သန်း(၁၃၀၀)ကို စာချုပ်အကျိုးသက်ရောက်သည့်နေ့မှစ၍ ပထမ(၅)နှစ်အတွင်းလည်းကောင်း ရင်းနှီးမြှုပ်နှံပါမည်။ ရင်းနှီးမြှုပ်နှံမှုအဖြစ်ဆောင်ရွက်သောကိစ္စများ၊စာရင်းဇယားများကို "အငှားချထားသူ"သို့အသိပေးထားရပါမည်။ အဆောက်အဦများတိုးချဲ့ခြင်း၊ အသစ်တည်ဆောက်ခြင်း၊ စက်များတိုးချဲ့ခြင်း၊ အသစ်တပ်ဆင်ခြင်းများကို "အငှားချထားသူ"၏ ကြိုတင် ခွင့်ပြုချက်ရယူ ဆောင်ရွက်

ရပါမည်။ အဆောက်အဦများဖျက်သိမ်းခြင်း၊ စက်များလဲလှယ်ခြင်း လုပ်ငန်းများ လိုအပ်ပါကလည်း “အငှားချထားသူ”ထံ တင်ပြ၍ ညွှန်ကြားချက်ရယူပြီး သတ်မှတ်ထားသော လုပ်ထုံး လုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရပါမည်။

**လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်း**

၁၉။ ရေနံဓါတ်ငွေ့ရည်စက်ရုံ(၂)ရုံလည်ပတ်၍ ထုတ်လုပ်၊ သိုလှောင်၊ ဖြန့်ဖြူးခြင်းနှင့် ပြည်တွင်း/ ပြည်ပ မှ ဝယ်ယူတင်သွင်း သိုလှောင် ဖြန့်ဖြူးခြင်းလုပ်ငန်းများ ဆောင်ရွက်ရန်အတွက် လိုအပ်သည့် လုပ်ငန်းလည်ပတ်ရန်ပုံငွေ ကျပ်သန်း(၁၀၀၀)ခန့်ကို “အငှားချထားခြင်းခံရသူ”မှ တာဝန်ယူဆောင်ရွက်ရမည်။

**ဝန်ထမ်းရေးရာစည်းကမ်းချက်များ**

၂၀။ ဝန်ထမ်းများနှင့်စပ်လျဉ်း၍ နှစ်ဦးနှစ်ဖက်ဆွေးနွေးညှိနှိုင်းပြီး ဝန်ထမ်းများ၏ ဆန္ဒများ ရယူပြီး တည်ဆဲနိုင်ငံဝန်ထမ်းဥပဒေ၊ နည်းဥပဒေများနှင့်အညီ ညှိနှိုင်းဆောင်ရွက်ရမည်ဖြစ်ပြီး တည်ဆဲဥပဒေ၊ နည်းဥပဒေများနှင့်အညီ သီးခြား အလုပ်ရှင်၊ အလုပ်သမား စာချုပ်များကို သီးခြား ချုပ်ဆိုဆောင်ရွက်ရမည်။

၂၁။ ပြင်ပဝန်ထမ်းတာဝန်ထမ်းဆောင်မည့် ဝန်ထမ်းများအား နိုင်ငံဝန်ထမ်းဥပဒေ၊ နည်းဥပဒေနှင့်အညီ လိုက်နာဆောင်ရွက်ရန်ဖြစ်ပြီး ဝန်ထမ်းရေးရာကိစ္စရပ်များအား အငှားချထားသူနှင့်ညှိနှိုင်းဆောင်ရွက်ရမည့်အပြင် အောက်ပါကိစ္စရပ်များကိုလည်း “အငှားချထားခြင်းခံရသူ”မှ ဆောင်ရွက် ပေးရမည် -

(က) ဝန်ထမ်းအားလုံးကို အသက်အာမခံထားရှိပေးရမည်ဖြစ်ပြီး လူမှုဖူလုံရေးထည့်ဝင်ကြေးကိုလည်း လူမှုဖူလုံရေးဌာနမှ သတ်မှတ်သောစည်းကမ်းသတ်မှတ်ချက်များအတိုင်း ပြင်ပဝန်ထမ်း တာဝန်ထမ်းဆောင်မည့် ဝန်ထမ်းများအတွက် ထည့်ဝင်ငွေနှင့် အလုပ်ရှင်အတွက် ထည့်ဝင်ငွေများကို “အငှားချထားခြင်းခံရသူ”မှ တာဝန်ယူ၍ ပုံမှန်ထည့်ဝင် ကျခံပေးရပါမည်။

(ခ) ပြင်ပဝန်ထမ်းတာဝန်ထမ်းဆောင်မည့် ဝန်ထမ်းများ၏ ကျန်းမာရေး စောင့်ရှောက်မှု၊ လုပ်ငန်းခွင် ဘေးအန္တရာယ်ကင်းရှင်းစေမှုများကို "အငှားချထားခြင်းခံရသူ"မှ တာဝန်ယူ ဆောင်ရွက်ပေးရမည်။ တည်ဆဲလူမှုဖူလုံရေးဥပဒေနှင့် တည်ဆဲအလုပ်သမားဥပဒေများအရ အကျိုးခံစားခွင့် ရရှိရေးကို "အငှားချထားခြင်းခံရသူ"မှ တာဝန်ယူဆောင်ရွက်ပေးရမည်။

၂၂။ "အငှားချထားခြင်းခံရသူ"သို့ အပြီး ကူးပြောင်းမည့် ကူးပြောင်းဝန်ထမ်းများနှင့်ပတ်သက်၍ နိုင်ငံ့ဝန်ထမ်းဥပဒေနှင့်အညီ ဆောင်ရွက်ပါမည်။ "အငှားချထားခြင်းခံရသူ"မှ အောက်ပါစည်းကမ်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရပါမည် -

(က) ကူးပြောင်းဝန်ထမ်းများ၏လစာ၊ အပိုဆုကြေးနှင့် စွမ်းဆောင်မှု ဆုကြေးများကို နှစ်ဖက် ညှိနှိုင်းသတ်မှတ်ပေးချေမည်။ ကူးပြောင်းဝန်ထမ်းအားလုံးကို အသက်အာမခံထားရှိပေးရမည်ဖြစ်ပြီး လူမှုဖူလုံရေးထည့်ဝင်ကြေးကိုလည်း လူမှုဖူလုံရေးဌာနမှ သတ်မှတ်သော စည်းကမ်း သတ်မှတ်ချက်များအတိုင်း ကူးပြောင်းဝန်ထမ်းများအတွက် ထည့်ဝင်ငွေနှင့် အလုပ်ရှင်အတွက် ထည့်ဝင်ငွေများကို "အငှားချထားခြင်းခံရသူ"မှ တာဝန်ယူ၍ပုံမှန် ထည့်ဝင်ကျခံပေးရပါမည်။

(ခ) ကူးပြောင်းဝန်ထမ်းများကို လစ်လပ်မှုအရသော်လည်းကောင်း၊ လုပ်ငန်းလိုအပ်မှုအရသော်လည်းကောင်း၊ ကျွမ်းကျင်မှုအရသော်လည်းကောင်း၊ ရာထူးတိုးမြှင့်ခန့်ထားပေးရပါမည်။

(ဂ) ကူးပြောင်းဝန်ထမ်းများ၏လစာများကို လစဉ်နောက်ဆုံးရက် (သို့မဟုတ်) ယင်းနောက်ဆုံးရက်သည် ပိတ်ရက်ဖြစ်ပါက ပိတ်ရက်မတိုင်မီရက်တွင် လစာထုတ်ပေးရမည်။

(ဃ) စက်ရုံနှင့်ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်များအတွက် ပြောင်းရွှေ့တာဝန်ပေးမှုများကို "အငှားချ ထားခြင်းခံရသူ"မှ သင့်တော်သလို စီမံနိုင်သည်။

(င) ကူးပြောင်းဝန်ထမ်းများ၏ ခွင့်ခံစားခွင့်ကို နိုင်ငံ့ဝန်ထမ်းဥပဒေအတိုင်း ခံစားစေပါမည်။ ကျန်ကိစ္စရပ်များကို တည်ဆဲအလုပ်သမား ဥပဒေများအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(စ) အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာနမှ သတ်မှတ်ထားသော ပုံစံဖြင့် စာချုပ်ချုပ်ဆိုရမည်။ အဆိုပါဝန်ကြီးဌာန၏ ဥပဒေ၊ နည်းဥပဒေ၊ အမိန့် ကြေငြာစာ၊ လုပ်ထုံးလုပ်နည်းများကို တည်ဆဲ ဥပဒေများနှင့်အညီ သတ်မှတ်ထားသော လုပ်ငန်းခွင် စည်းကမ်းများကို လိုက်နာရမည်။

(ဆ) အသက်(၆၀)ပြည့်ပါက အလုပ်မှအနားပေးပါမည်။ ကျန်းမာရေးဆေးစစ်ပြီး သင့်ပါက တစ်နှစ်တစ်ကြိမ် စာချုပ်သက်တမ်းတိုးပြီး ဆက်လက်ခန့် ထားနိုင်သည်။

(ဇ) အိုနာစာ ရန်ပုံငွေကို ကူးပြောင်းဝန်ထမ်းမှ တစ်နှစ်လျှင်တစ်လ၊ "အငှားချ ထားခြင်းခံရသူ" မှ တစ်နှစ်လျှင်တစ်လ ထည့်ဝင်၍ အလုပ်မှမည်သည့် အကြောင်းဖြင့် ရပ်နားသည်ဖြစ်စေ ထုတ်ပေးရမည်။

(ဈ) ကူးပြောင်းဝန်ထမ်းများလစာ၏ (၃)လစာကို ဘဏ်၌ သီးခြားငွေစာရင်း ဖွင့်၍ (၃)နှစ် ထားရှိပေးမည်ဖြစ်ပြီး(၃)နှစ်အတွင်း မလွန်ဆန်နိုင်သောဖြစ်ရပ် များကြောင့် စာချုပ်ရပ်စဲပါ က ကူးပြောင်းဝန်ထမ်းများအား လျော်ကြေး အဖြစ်ထုတ်ပေးရမည်ဖြစ်သည်။ ၎င်းဘဏ်တိုးများကို ဝန်ထမ်းသက်သာ ချောင်ချိရေး ကိစ္စရပ်များတွင် ဆောင်ရွက်ပေးနိုင်သည်။

(ည) အလုပ်မှ ရပ်စဲခြင်းကိုလည်း တည်ဆဲအလုပ်သမား ဥပဒေများနှင့် အညီ ဆောင်ရွက် ရမည်။

(ဋ) ကူးပြောင်းဝန်ထမ်းများ၏ ကျန်းမာရေးစောင့်ရှောက်မှု၊ လုပ်ငန်းခွင်ဘေး အန္တရာယ် ကင်းရှင်းစေမှုများကို "အငှားချထားခြင်းခံရသူ"မှ တာဝန်ယူ ဆောင်ရွက်ပေးရမည်။ တည်ဆဲလူမှုဖူလုံရေးဥပဒေနှင့် တည်ဆဲအလုပ်သမား ဥပဒေများအရ အကျိုးခံစားခွင့်ရရှိရေးကို "အငှားချထားခြင်းခံရသူ"မှ တာဝန်ယူဆောင်ရွက်ပေးရမည်။

(ဌ) ကူးပြောင်းဝန်ထမ်းများကို အလုပ်နှင့်ဆိုင်ရာ ပြည်တွင်းပြည်ပသင်တန်းများ၊ ကျွမ်းကျင်မှုဆိုင်ရာလက်မှတ်ရသင်တန်းများ စေလွှတ်သင်ကြားပေးနိုင်သည်။

(ဍ) ရုံးအဆောက်အဦများ၊ စက်ရုံအဆောက်အဦများနှင့် ကူးပြောင်းဝန်ထမ်း အိမ်ရာများကို လိုအပ်သလိုပြုပြင်မွမ်းမံပေးရမည်။ စက်ရုံဝန်းစိမ်းလန်း စိုပြည် သာယာလှပရေး ဆောင်ရွက်ရမည်။

(ဎ) ကူးပြောင်းဝန်ထမ်းများအား ရာထူးအဆင့်နှင့်လျော်ညီသော ရပိုင်ခွင့်နှင့် တာဝန်ဝတ္တရားများကို ပေးအပ်တာဝန်ထမ်းဆောင်စေရမည်။ သတ်မှတ် အလုပ်ချိန်ထက် ပိုမိုဆောင်ရွက်စေခဲ့ပါက တည်ဆဲအလုပ်သမားဥပဒေ များနှင့် အညီ အချိန်ပိုကြေးပေးရမည်။ အလုပ်ရှင်နှင့်အလုပ်သမား စာချုပ်ချုပ်ဆို သည့်အခါ ရပိုင်ခွင့်နှင့်တာဝန်ဝတ္တရားများကို တိကျစွာ ထည့်သွင်း ဖော်ပြပေး ရမည်။

(ဏ) ကူးပြောင်းဝန်ထမ်းများ၏အုပ်ချုပ်မှုကိစ္စ၊ ကုန်ထုတ်လုပ်မှုကိစ္စနှင့် သက်သာ ချောင်ချိရေးကိစ္စများအတွက် သင့်တော်သလိုမော်တော်ယာဉ်များ စီစဉ် ဆောင်ရွက် ပေးရမည်။ စီစဉ်ဆောင်ရွက်ပေးနိုင်ခြင်းမရှိပါက အမှန်တကယ် သုံးစွဲကုန်ကျခဲ့သည့် ခရီးစရိတ်များ ပေးဆောင်ရမည်။ နေ့တွက်စရိတ် ကိုလည်း လုပ်ငန်းနှင့်ပတ်သက်၍ သီးခြားဆောင်ရွက်ရသည့်ကိစ္စရပ်များ အတွက် ပေးဆောင်ရမည်။

(တ) Corporate Social Responsibility (CSR) အတွက် (၁)နှစ်ရရှိသော အသားတင်အမြတ်ငွေ၏ (၁%) နှင့် ဝန်ထမ်းသက်သာချောင်ချိရေးအတွက် (၁)နှစ်ရရှိသော အသားတင်အမြတ်ငွေ၏ (၄%) စုစုပေါင်း (၅%)အထိ သုံးစွဲရမည်။

(ထ) ကူးပြောင်းဝန်ထမ်းများကို ကျွမ်းကျင်မှုအရသော်လည်းကောင်း၊ လုပ်ငန်း စွမ်းဆောင်ရည်အရသော်လည်းကောင်း၊ အလေအလွင့်လျော့ချမှုအရသော် လည်းကောင်း၊ ကုန်ထုတ်စွမ်းအား တိုးတက်မှုအရသော်လည်းကောင်း၊ ရောင်းအားတိုးတက်မှုအရသော်လည်းကောင်း၊ အမြတ်ရရှိမှုအရသော်လည်း ကောင်း "အငှားချထားသူ"၏ အတည်ပြုချက်ဖြင့် ကူးပြောင်း ဝန်ထမ်း တစ်ဦးချင်းကိုဖြစ်စေ၊ ကူးပြောင်းဝန်ထမ်းတစ်စုကိုဖြစ်စေ၊ ကူးပြောင်း ဝန်ထမ်း အားလုံးကို ဖြစ်စေ ဆုကြေးများချီးမြှင့်နိုင်သည်။

(ဒ) ကျွန်းချောင်းစက်ရုံမှ ရွှေ့ပြောင်းလာမည့် ကူးပြောင်းဝန်ထမ်းများအတွက် နေထိုင်ရေး စီစဉ်ပေးရမည်။

၂၃။ သဘာဝဓာတ်ငွေ့ထွက်နှုန်းနှင့် ပါဝင်မှုအချိုးအဆ (Composition)များအရ စီးပွား ရေးတွက်ခြေကိုက်မှုမရှိသည့် အခြေအနေများဖြစ်ပေါ်နိုင်သဖြင့် ညောင်တုန်းရေနံ ဓာတ်ငွေ့ရည်စက်ရုံကို ရပ်ဆိုင်းလိုက်ပါက အထက်ဖော်ပြပါ ငှားရမ်းခ နှုန်းထားများအတိုင်း အဆင့်ဆင့်သတ်မှတ်ပြီး ငွေပေးချေရမည်။

၂၄။ စက်ရုံ၏(၁)နှစ်ငှားရမ်းခ ပေးသွင်းမှု နောက်ကျပါက (၁)လနောက်ကျတိုင်း ရက်လွန်ကြေးအဖြစ် (၁၂)လ ငှားရမ်းခ၏ (၁%)ကို "အငှားချထားခြင်းခံရသူ"မှ ဒဏ်ကြေးအဖြစ်ပေးသွင်းရမည်။ နောက်ကျရက်လွန်ကြေးကို (၁)လချင်း ရေတွက်ပါမည်။ စုစုပေါင်း ရက်လွန်ကြေးသည် (၅%)ထက် မကျော်လွန်စေရ။ သတ်မှတ်ချိန်(၆)လ ကျော်လွန်ပြီး တစ်ဆက်စပ်တည်း (၆)လကြာသည်အထိ ငှားရမ်းခ သတ်မှတ်ငွေကို ပေးသွင်းခြင်းမရှိပါက စာချုပ်ကိုရပ်စဲပြီး စက်ရုံများကို "အငှားချထားသူ"မှ ပြန်လည် လက်ရောက် လွှဲပြောင်း ရယူမည်။

## "အငှားချထားခြင်းခံရသူ"၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ

၂၅။ "အငှားချထားခြင်းခံရသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ အောက်ပါ အတိုင်း ဖြစ်ပါသည် -

(က) ဤငှားရမ်းဆောင်ရွက်မည့် လုပ်ငန်းများအတွက် သီးခြားဘဏ်စာရင်း ဖွင့်လှစ် ၍ မြန်မာနိုင်ငံ၏သတ်မှတ်သော စည်းမျဉ်းစည်းကမ်းများနှင့်အညီ စာရင်းဇယားများကို ထားရှိရမည်။ နှစ်စဉ် နှစ်ချုပ်စာရင်း ရေးဆွဲပြီး ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး (သို့) အစိုးရအသိအမှတ်ပြု စာရင်းစစ်အဖွဲ့၏ စာရင်းစစ်ဆေးခံယူပြီး အစီရင်ခံစာနှင့်အတူ "အငှားချထားသူ"ထံ တင်ပြ ရမည်။

(ခ) မြေခွန်မှအပကျန်အခွန်အခအားလုံး စည်ပင်သာယာခွန်၊ တံဆိပ်ခေါင်းခွန်၊ ကုန်သွယ်ခွန်၊ ဝင်ငွေခွန်၊ လျှပ်စစ်၊ တယ်လီဖုန်း၊ ရေ စသည်တို့ကို ကြွေးကျန်မရှိစေရန် ကျခံပေးဆောင် ရမည်။ ပေးဆောင်ပြီး မိတ္တူများကို "အငှားချထားသူ"ထံ တင်ပြထားရမည်။

(ဂ) စက်ရုံနှင့်ပတ်သက်သည့် ဌာနအလိုက် စာရွက်စာတမ်း၊ စာရင်းအင်းများကို ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး ၏ စာရင်းစစ်အစစ်ဆေးခံနိုင်ရန်နှင့် အခြား လိုအပ်သည်များ ဆောင်ရွက်နိုင်ရန် "အငှားချထားခြင်းခံရသူ"နှင့် ညှိနှိုင်း၍ စနစ်တကျ ထိန်းသိမ်းထားရှိရမည်။

(ဃ) လိုအပ်သောလုပ်ငန်းလိုင်စင်များကို ရယူ၍ သက်တမ်းတိုးခြင်း၊ လိုင်စင် ကြေးပေးချေ ခြင်းကို တာဝန်ယူဆောင်ရွက်ရမည်။

(င) ငှားရမ်းခနှင့် အကျိုးအမြတ်ခွဲဝေမှုကို အပိုဒ်(၈)နောက်ဆက်တွဲစာချုပ်များ အရလည်းကောင်း၊ စာချုပ်ပါ အပိုဒ်(၈) ၊ အပိုဒ်(၉)တို့အရလည်းကောင်း စည်းကမ်းချက်များနှင့် အညီ သတ်မှတ်အချိန်အတွင်း "အငှားချထားသူ"ထံ ပေးသွင်း ရမည်။

(စ) အဆောက်အဦများ ပုံစံပြောင်းလဲဆောက်လုပ်ခြင်း၊ တိုးချဲ့ဆောက်လုပ်ခြင်း၊ အသစ်ဆောက်လုပ်ခြင်းနှင့် စက်ပစ္စည်းများတိုးချဲ့ခြင်း၊ အသစ်တပ်ဆင် ခြင်းတို့ကို "အငှားချထားသူ"ထံ ခန့်မှန်းကုန်ကျစရိတ်နှင့်တကွ ကြိုတင် ခွင့်ပြုချက်တောင်းခံ၍ စာဖြင့် အတည်ပြု ချက်ရရှိပြီးမှ ဆောင်ရွက်ရမည်။

(ဆ) လုပ်ငန်းအကျိုးအမြတ်ရရှိမှုအပေါ် မူတည်၍ ဝန်ထမ်းများလစာတိုးခြင်းကို "အငှားချထားသူ"ထံ တင်ပြခွင့်ပြုချက်ရယူဆောင်ရွက်ရမည်။ ဝန်ထမ်း သက်သာချောင်ချိရေး ဆောင်ရွက်မှုများကို ဆောင်ရွက် ရမည်။

(ဇ) "အငှားချထားခြင်းခံရသူ"သည် အငှားချထားသောပစ္စည်းများကို ကောင်း မွန်စွာ ထိန်းသိမ်း ထားရှိရမည်။ အငှားချထားသောပစ္စည်းများကို အခြားသူ တစ်ဦးဦး (သို့မဟုတ်) အဖွဲ့အစည်းတစ်ခုခုသို့ တစ်ဆင့်ပေါင်နှံခြင်း၊ ရောင်းချခြင်း၊ လွှဲပြောင်းပေးခြင်း၊ တစ်ဆင့်ငှားရမ်းခြင်းလုံးဝမပြုရ။

(ဈ) အငှားချထားသည့်စက်ရုံနှင့် ဆိုင်များအတွက် အလုံးစုံအာမခံ၊ မီးအာမခံ များအပါအဝင် လိုအပ်သည့်အာမခံများ မပြတ်မနေထားရမည်ဖြစ်ပြီး အာမခံ သက်တမ်းကျော်လွန်မှု မဖြစ်စေရေး တာဝန်ယူဆောင်ရွက်ရမည်။

(ည) အငှားချထားသည့် စက်ရုံနှင့်ဆိုင်များတွင် တပ်ဆင်မှုများ၊ ပုံစံပြောင်းလဲ မှုများနှင့် တိုးချဲ့မှုများသည် စာချုပ်ရပ်စဲချိန်တွင် အဖိုးစားနားပေးရန် မလိုဘဲ "အငှားချထားသူ" ပိုင်ပစ္စည်းများ အလိုလျှောက် ဖြစ်လာရမည်။

"အငှားချထားခြင်းခံရသူ"၏ ရင်းနှီးမြှုပ်နှံငွေဖြင့် ကျခံဝယ်ယူသုံးစွဲခဲ့သော ရွှေ့ပြောင်းနိုင်သည့်ပစ္စည်းများဖြစ်သော ဘောက်ဆာယာဉ်၊ ထရပ်ကား၊ လုပ်ငန်းသုံးသည့် ဓာတ်ငွေ့အိုးများ၊ လေအေး ပေးစက်၊ ရေခဲသေတ္တာ၊ ပရိဘောဂများကို ပြန်လည်ရယူပိုင်ခွင့်ရှိသည်။

(ဋ) ရေနံဓာတ်ငွေ့ရည်များကို ပြင်ပဈေးကွက်တွင် ရတနာစုအမှတ်တံဆိပ် အပါအဝင် တရားဝင်မှတ်ပုံတင်ထားသော အမှတ်တံဆိပ်ဖြင့် လိုင်စင် စည်းကမ်းများနှင့်အညီ လွတ်လပ်စွာ ဖြန့်ဖြူးရောင်းချနိုင်သည်။ အဆိုပါ ကုန်အမှတ်တံဆိပ်နှင့် စပ်လျဉ်း၍ မူပိုင်ခွင့်ပြဿနာ ပေါ်ပေါက်လာပါက "အငှားချထားခြင်းခံရသူ"၏ တာဝန်သာဖြစ်သည်။

(ဌ) အငှားချထားသည့် စက်ရုံနှင့်ဆိုင်များအတွက် တည်ဆဲ ဥပဒေများနှင့် မညီညွတ်သော လုပ်ငန်းများမဆောင်ရွက်ရ။ စာချုပ်ပါလုပ်ငန်းများကိုသာ ဆောင်ရွက်ရမည်ဖြစ်ပြီး လုပ်ငန်းသစ် ထပ်မံ တိုးချဲ့ဆောင်ရွက်လိုပါက "အငှားချထားသူ"ထံ ကြိုတင် တင်ပြခွင့်ပြုချက်ရယူပြီးမှ ဆောင်ရွက်ရမည်။ သို့သော်ဆိုင်များတွင် ဆလင်ဒါအိုးများ၊ မီးဖိုနှင့် အရံပစ္စည်းများ၊ မီးသတ်ဆေးဗူးများစသော ဆက်စပ်ပစ္စည်းများကို ရောင်းချခြင်း၊ မွမ်းမံပြင်ဆင်ခြင်းများကိုလည်း ဆောင်ရွက် နိုင်သည်။

(ဍ) လိပ်စာပြောင်းလဲခြင်း၊ ဒါရိုက်တာအဖွဲ့ဝင်များပြောင်းလဲခြင်းနှင့် အခြား ထူးခြားမှုဖြစ်စဉ်အားလုံးကို "အငှားချထားသူ"ထံ အသိပေးအကြောင်းကြားရမည်။

(ဎ) နိုင်ငံတော်အရံဆီအဖြစ် စက်ရုံသိုလှောင်စွမ်းအား၏ (၅%)ကို ထားရှိပေးမည်။ အရေးပေါ်လိုအပ်သည့်အခါ နိုင်ငံတော်သို့ ရောင်းချပေးရမည်။

(ဏ) ကျွန်းချောင်းရေနံဓာတ်ငွေ့ရည်စက်ရုံမှ စက်ပစ္စည်းများအား ဖြုတ်သိမ်းခြင်း၊ သယ်ယူပို့ဆောင်ခြင်း၊ ပြန်လည်တပ်ဆင်ခြင်းနှင့် စမ်းသပ်လည်ပတ်ခြင်း ကုန်ကျစရိတ်များကို ကျခံရမည်။

(တ) ရေနံဓာတ်ငွေ့ရည်ကို ပြည်ပမှတင်သွင်းရန် လိုအပ်လာပါက တင်ဒါခေါ်ယူခြင်း အပါအဝင် လုပ်ငန်းစဉ်များကို "အငှားချထားသူ"ထံ တင်ပြအသိပေး လမ်းညွှန်မှုရယူ၍ ဆောင်ရွက် ရမည်။

(ထ) ရောင်းချဖြန့်ဖြူးရေးအတွက် အရောက်ပို့စနစ် အပါအဝင် အရောင်းမြှင့်တင်ရေးလုပ်ငန်းများကို တည်ဆဲဥပဒေ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လွတ်လပ်စွာ ဆောင်ရွက်နိုင်သည်။

(ဒ) အငှားချထားသည့်လုပ်ငန်း၏ ဝင်ငွေနှင့်အသုံးစရိတ်များအား "အငှားချထားသူ"ထံသို့ လစဉ်ပေးပို့ရန်နှင့် ခြောက်လတစ်ကြိမ် "အငှားချထားသူ"မှ ဖွဲ့စည်းတာဝန်ပေးအပ်သည့် အတွင်း စာရင်းစစ်အဖွဲ့မှ ထိုစာရင်းများအား စစ်ဆေးရမည်။

(ဓ) နှစ်စဉ်ရငွေ၊ သုံးငွေများနှင့် စပ်လျဉ်း၍ ရသုံးခန့်မှန်းခြေစာရင်း (ခန့်မှန်း)အား ရေးဆွဲ၍ "အငှားချထားသူ"ထံသို့ Annual Budget Plan ကို နှစ်စဉ် အောက်တိုဘာလကုန်ခန့်တွင် တင်ပြရမည်။

(န) အမြတ်ခွဲဝေမှုအား ဝင်ငွေခွန်ပေးဆောင်ခြင်းမပြုမီ အမြတ်(Net Profit Before Tax) အပေါ်တွင် (၁)နှစ် တစ်ကြိမ်ခွဲဝေရမည်။

(ပ) ရေနံဓာတ်ငွေ့ရည်စက်ရုံမှ ထွက်ရှိသော နက်ဖ်သာအား သတ်မှတ်ထားသော လုပ်ထုံးလုပ်နည်းများနှင့်အညီ ရောင်းချ ပိုင်ခွင့်ရှိသည်။

(ဖ) ထပ်မံဝယ်ယူသည့် မရွှေ့ပြောင်းနိုင်သော ပစ္စည်းများနှင့် ဌာန၏မူလ ပိုင်ဆိုင်သည့် အငှားချထားသည့်ပစ္စည်းများအား စာချုပ်သက်တမ်းကုန်ဆုံးသည့် အချိန် (သို့မဟုတ်) စာချုပ်ရပ်စဲသည့်အချိန်တွင် "အငှားချထားသူ" သို့ လွှဲပြောင်းအပ်နှံရမည်။

(ဗ) စက်ရုံလုံးဝလည်ပတ်မှုမရှိသည့် အခြေအနေတွင်လည်း ရပ်နားထားသော (ကျွန်းချောင်း၊ ညောင်တုန်း)စက်ရုံရှိ ဝန်ထမ်းများ၏ လစာနှင့်အခြားစရိတ်များ၊ အသက်အာမခံကြေး၊ လူမှုဖူလုံရေးကြေးနှင့် ဝန်ထမ်းရေးရာကိစ္စရပ်များကို "အငှားချထားခြင်းခံရသူ"မှ ကျခံရမည်။

(ဘ) ကုန်သွယ်လုပ်ငန်းခွန် ပင်ရင်းမှ နုတ်ယူပေးသွင်းသည့် ဝင်ငွေခွန် (Withholing Tax) နှင့် တံဆိပ်ခေါင်းခွန်တို့ကို "အငှားချထားခြင်းခံရသူ" မှ တာဝန်ယူပေးဆောင်ရမည်။

## “အငှားချထားသူ”၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ

၂၆။ “အငှားချထားသူ”၏တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(က) “အငှားချထားခြင်းခံရသူ”အား နောက်ဆက်တွဲ( )( )ပါ အငှားချထားသော ပစ္စည်းများကို အသုံးပြု ခွင့်ပေးရမည်။

(ခ) “အငှားချထာခြင်းခံရသူ”သည် ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံနှင့် ကျွန်းချောင်း မှ ညောင်တုန်းသို့ ရွှေ့ပြောင်းတပ်ဆင်သော ရေနံဓာတ်ငွေ့ ရည်စက်ရုံများ စက်စွမ်းအားပြည့် လည်ပတ်နိုင်ရန် လိုအပ်သည့် သဘာဝ ဓါတ်ငွေ့များကို မြန်မာ့ရေနံနှင့်သဘာဝဓာတ်ငွေ့ လုပ်ငန်းမှ သတ်မှတ်သည့် ဈေးနှုန်းအတိုင်း မြန်မာ့ရေနံနှင့်သဘာဝဓာတ်ငွေ့လုပ်ငန်းနှင့် စာချုပ်ချုပ်ဆို ပေးချေနိုင်ရေး ညှိနှိုင်းဆောင်ရွက်ပေးရမည်။

(ဂ) မင်းဘူးနှင့် သံပုရာကန်စက်ရုံတို့မှ ရေနံဓာတ်ငွေ့ရည်များကို “အငှား ချထားခြင်းခံရသူ”သည် “အငှားချထားသူ”ထံမှ သတ်မှတ် စည်းမျဉ်း စည်းကမ်းများနှင့်အညီ ဝယ်ယူနိုင်သည်။

(ဃ) “ငှားရမ်းခနှင့် အကျိုးအမြတ်ခွဲဝေမှု”ကို အပိုဒ်(၈)နှင့်(၉)အရ “အငှားချ ထားခြင်း ခံရသူ”ထံမှ ရပိုင်ခွင့်ရှိသည်။

(င) စက်ရုံတွင်တပ်ဆင်ထားပြီးဖြစ်သော လျှပ်စစ်ဓာတ်အားလိုင်း၊ ရေပိုက်လိုင်း၊ တယ်လီဖုန်းလိုင်းနှင့် သဘာဝဓာတ်ငွေ့ပိုက်လိုင်းတို့ကို “အငှားချထားခြင်း ခံရသူ”အား ဆက်လက် အသုံးပြုခွင့်ပေးရမည်။

(စ) အငှားချထားသည့် စက်ရုံအခြေအနေကိုလည်းကောင်း၊ ရေနံဓာတ်ငွေ့ ရည်များ၏ အရည်အသွေးကိုလည်းကောင်း၊ “အငှားချထားသူ”မှ လုပ်ပိုင် ခွင့်ပေးအပ်ထားသော ကိုယ်စားလှယ်များမှ အခါအားလျော်စွာ စစ်ဆေး နိုင်ခွင့်ရှိသည်။ “အငှားချထားခြင်းခံရသူ”ထံ ကြိုတင် အကြောင်းကြားပြီး ငှားရမ်းထားသော ဧရိယာများအတွင်းသို့ ဝင်ထွက်ခွင့်ရှိသည်။

(ဆ) “အငှားချထားသူ”မှ မြေခွန်ကို ပေးဆောင်ရမည်။ အခြားအခွန်အခနှင့် လိုင်စင်ကြေးများ အချိန်မီပေးဆောင်မှု ရှိ/မရှိ စီစစ်ရမည်။ အာမခံသက်တမ်း ကျော်လွန်မှုရှိ/မရှိ စီစစ် ရမည်။

(ဈ) စာချုပ်စည်းကမ်းဖောက်ဖျက်မှုကြောင့် မဟုတ်ဘဲ လုပ်ငန်းရပ်စဲရန် အကြောင်းကိစ္စ ပေါ်ပေါက်လာပါက "အငှားချထားခြင်းခံရသူ"၏ ရင်းနှီးမြှုပ်နှံမှုများ နစ်နာမှုမရှိစေရန် နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး စီမံပေးမည်။

(ဈ) စာချုပ်သက်တမ်းကုန်ဆုံးချိန် (သို့မဟုတ်) စာချုပ်ရပ်စဲချိန်တွင် မရွှေ့ပြောင်းနိုင်သော အဆောက်အဦ၊ စက်ပစ္စည်းတိုးချဲ့မှု၊ ပုံစံပြောင်းလဲမှု၊ အသစ်တည်ဆောက်မှုတို့ အပါအဝင် မူလအငှားချထားသော ပစ္စည်းများကို "အငှားချထားခြင်းခံရသူ"ထံမှ အဖိုးစားနားမပါရှိဘဲ ပြန်လည်လက်ရောက်ရယူ ခွင့်ရှိသည်။

(ည) ကျွန်းချောင်းရေနံဓာတ်ငွေ့ရည်စက်ရုံရှိ စက်ပစ္စည်းများအား ဖြုတ်သိမ်းခြင်း၊ ညောင်တုန်းစက်ရုံသို့ ရွှေ့ပြောင်းတပ်ဆင်ခြင်း၊ စမ်းသပ် လည်ပတ်ခြင်းလုပ်ငန်း၊ အင်ဂျင်နီယာလုပ်ငန်း နှင့် နည်းပညာပိုင်းဆိုင်ရာ လုပ်ငန်းများအတွက် လိုအပ်သည့် အကြံဉာဏ်များ၊ ကျွမ်းကျင်သူများနှင့် ယာဉ်၊ ယန္တရားများကို "အငှားချထားခြင်းခံရသူ"၏ ကုန်ကျ စရိတ်ဖြင့်အတတ်နိုင်ဆုံး ကူညီဆောင်ရွက်ပေးမည်။

(ဋ) အငှားချထားသည့် ပစ္စည်းများနှင့်ပတ်သက်၍ ငှားရမ်းမှုမစတင်မီ ပေးရန်၊ ရရန် စာရင်းများနှင့်လည်းကောင်း၊ ကုန်ချောနှင့်မြေပြင်လက်ကျန် စာရင်းရှိပစ္စည်းသည်လည်းကောင်း "အငှားချထားသူ"နှင့်သာ သက်ဆိုင်သည်။

(ဌ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဤငှားရမ်းခြင်းလုပ်ငန်းအတွက် အဆိုပြုလွှာ တင်ပြ၍ ခွင့်ပြုချက်ရယူ ဆောင်ရွက်မှုတွင် "အငှားချထားသူ"မှ လိုအပ် သော ပံ့ပိုးကူညီမှုများ ဆောင်ရွက် ပေးရမည်။

**အငြင်းပွားမှုဖြေရှင်းခြင်း**

၂၇။ ဤစာချုပ်နှင့်စပ်လျဉ်း၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက် ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ ဖြေရှင်းမရပါက ထိုအငြင်းပွားမှုကို ဖြေရှင်းခြင်းသည် ပြည်ထောင်စုလွှတ်တော်ဥပဒေအမှတ် ၅/၂၀၁၆ အရ ပြဋ္ဌာန်းခဲ့သော မြန်မာနိုင်ငံ ၅/၂၀၁၆ အနညာတ စီရင်ဆုံးဖြတ်ခြင်း ဥပဒေနှင့် နောက်ထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များ နှင့်အညီ ဖြစ်ရမည်။ အနညာတ စီရင်ဆုံးဖြတ်မည့်နေရာသည် နေပြည်တော်ဖြစ်ရမည်။ အမှုကုန်ကျစရိတ်ကို အမှုရှုံးသူမှ ကျခံရမည်။

**လျှို့ဝှက်ထိန်းသိမ်းခြင်း**

၂၈။ စာချုပ်ဝင်များသည် စာချုပ်ပါအကြောင်းအရာများကို အတွင်းရေးအဖြစ် လျှို့ဝှက် ထိန်းသိမ်းရမည်။ ၎င်းအကြောင်းအရာများကို အုပ်ချုပ်မှုဆိုင်ရာ စီမံခန့်ခွဲရေးနှင့် တရားစီရင်မှုအရ ထုတ်ဖော်အသိပေးခြင်းမှအပ အခြားထုတ်ဖော် အသိပေးခြင်းမပြုရ။ ဝန်ထမ်းရေးရာ ကိစ္စရပ်ဆိုင်ရာ အပိုင်းများကိုမူ ဝန်ထမ်းများသို့ အသိပေးရှင်းလင်းခွင့် ရှိသည်။

**သယံဇာတပစ္စည်းများဆိုင်ရာကိစ္စ**

၂၉။ "အငှားချထားခြင်းခံရသူ"သည် စာချုပ်သက်တမ်းအတွင်း လုပ်ငန်းဆောင်ရွက်သည့် မြေပေါ်မြေအောက်မှ ဓာတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓာတ်ငွေ့ဆိုင်ရာပစ္စည်းများ၊ သဘာဝသယံဇာတပစ္စည်းများနှင့် ရှေးဟောင်းပစ္စည်းများတွေ့ရှိပါ က အငှားချထားသူသို့ ချက်ချင်းအကြောင်းကြားရမည်။ ၎င်းပစ္စည်းများကို "အငှားချထားသူ"ကသာသက်ဆိုင်ပြီး အငှားချထားသူနှင့် သက်ဆိုင်ရာအဖွဲ့အစည်းများသည် မည်သည့်အချိန်၌မဆို လွတ်လပ်စွာ တူးဖော်စီမံဆောင်ရွက်ခွင့်ရှိစေရမည်။ ရှေးဟောင်းပစ္စည်းများ မထိခိုက်အောင် ထိန်းသိမ်း စောင့်ရှောက်ရမည်။

**သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းခြင်း**

၃၀။ "အငှားချထားခြင်းခံရသူ"သည် သဘာဝပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအမံ "Environmental Management Plan"ကို စာချုပ်ချုပ်ဆိုပြီး (၁)နှစ်အတွင်း စတင် ရေးဆွဲ၍ တည်ဆဲဥပဒေ၊ နည်းဥပဒေ ညွှန်ကြားချက်များကို လိုက်နာပြီး သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးကို အလေးထား စောင့်ရှောက်ရမည်။ ဤလုပ်ငန်း ဆောင်ရွက်မှု အတွက် ဖြစ်ပေါ်မည့် ပြဿနာများ၊ ရွှေ့ပြောင်းတပ်ဆင်မှုများ "အငှားချထားခြင်းခံရသူ"မှ တာဝန်ယူ ဖြေရှင်းရမည်။

**လုပ်ငန်းခွင်ဘေးအန္တရာယ်ကင်းရှင်းရေး**

၃၁။ "အငှားချထားခြင်းခံရသူ"သည် လုံခြုံရေး၊ လုပ်ငန်းခွင်ကျန်းမာရေး၊ လုပ်ငန်းခွင် ဘေးအန္တရာယ် ကင်းရှင်းရေး၊ အရည်အသွေးထိန်းသိမ်းရေး၊ ရေဘေး၊ လေဘေး၊ မီးဘေးစသော သဘာဝဘေးအန္တရာယ် ကာကွယ်ရေး စီမံချက်များရေးဆွဲ ထားရှိပြီး အဆောက်အဦများလုံလောက်စွာထားရှိရမည်။ လျှပ်စစ်နှင့် ဘွိုင်လာကို တည်ဆဲဥပဒေ စည်းမျဉ်းစည်းကမ်းများနှင့်အညီ သုံးစွဲရမည်။ လုပ်ငန်းခွင် ဘေးအန္တရာယ်ကင်း

ရှင်းရေးအတွက် သတ်မှတ်ထားသော Safety Precaution များနှင့်အညီ လုပ်ငန်းများကို ဆောင်ရွက် ရမည်။

**မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

၃၂။ စာချုပ်ဝင်တစ်ဦးဦးသည် စာချုပ်ပါတာဝန်များကို ရေဘေး၊ မီးဘေး၊ မြေငလျင်ဘေး၊ ရောဂါကပ်ဘေး၊ လေဘေး၊ အစိုးရကန့်သတ်ချက်များ၊ တရားဥပဒေနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်းစသည်တို့နှင့် စာချုပ်ဝင် တစ်ဖက်ဖက်က လိုအပ်သောသတိဝိရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန် မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး ယင်းမလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် ယာယီအားဖြင့် မထမ်းဆောင်နိုင်ခဲ့သော် ယင်းသို့သော အခြေအနေကို အခြားတစ်ဖက်စာချုပ်ဝင်သို့ ရက်ပေါင်း(၆၀)အတွင်း အကြောင်းကြားရမည်။ တစ်ဖက်စာချုပ်ဝင်က လက်ခံလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်သည်။ မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ယင်းကာလအတွင်း ဖြစ်ပေါ်သောကြန့်ကြာမှု၊ ဆုံးရှုံးမှုများကြောင့် မည်သည့်စာချုပ်ဝင်တွင်မှ တာဝန်မရှိစေရ။ ၎င်းဖြစ်ရပ်များသည် တစ်ဆက်တည်း (၆)လဖြစ်နေပါက စာချုပ်ဝင်နှစ်ဖက်သည် ဆွေးနွေးတိုင်ပင်၍ စာချုပ်ပြင်ဆင်ခြင်း၊ ဆိုင်းငံ့ခြင်း ဆောင်ရွက်ရမည်။

**စာချုပ်ပြန်လည်စေ့စပ်ညှိနှိုင်းခြင်း**

၃၃။ ဤသဘောတူစာချုပ်၌ပါရှိသည့် စည်းကမ်းချက်များသည် လုပ်ငန်းများအမှန်တကယ် အကောင်အထည်ဖော် ဆောင်ရွက်သည့်အခါ ကြိုတင်မမျှော်မှန်းနိုင်သော အခြေအနေတစ်ရပ်ရပ်ကြောင့် စာချုပ်ပါလုပ်ငန်းများ ဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်လျှင် စာချုပ်ဝင်များသည် နှစ်ဦးနှစ်ဖက် စေ့စပ်ညှိနှိုင်းပြီး စာချုပ်ပါ စည်းကမ်းချက်များကို ပြန်လည်စေ့စပ်ညှိနှိုင်း၍ ဆောင်ရွက်ရမည်။

**စာချုပ်အားပြင်ဆင်ဖြည့်စွက်ခြင်း**

၃၄။ စာချုပ်စည်းကမ်းများကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်း၊ ထပ်မံဖြည့်သွင်းခြင်းကို ပြုလုပ်လိုပါက "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့သည် နှစ်ဦးနှစ်ဖက်တရားဝင်စာဖြင့် သဘောတူညီချက်ဖြင့် လုပ်ထုံးလုပ်နည်းများနှင့်အညီ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနသို့ တင်ပြဆောင်ရွက်ရမည်။

**ပြန်လည်ဝင်ရောက်ခွင့်**

၃၅။ "အငှားချထားခြင်းခံရသူ"သည် ဤသဘောတူစာချုပ်ပါသည့် စည်းကမ်းချက်များကို

လိုက်နာရန် ပျက်ကွက်ပါက ထိုသို့ပျက်ကွက်မှုအတွက် "အငှားချထားသူ"က ပေးပို့သော အကြောင်းကြားစာ ရရှိပြီးမှ ရက်ပေါင်း(၆၀)အတွင်း ပျက်ကွက်မှုကို ပြန်လည်ပြင်ဆင်ခြင်းမပြုလျှင် "အငှားချထားသူ"သည် ဘဏ်အာမခံငွေကိုသိမ်းယူပြီး ငှားရမ်းသည့်စက်ရုံ၊ ဆိုင်၊ မြေတို့ကို ပြန်လည် ဝင်ရောက်ရယူခွင့်ရှိသည်။ ထို့အပြင် ထိုသို့ ပြန်လည်ဝင်ရောက်ရယူချိန်မှစ၍ စာချုပ်အားရပ်စဲရမည်။ ယင်းသို့ဝင်ရောက်၍ တက်ရောက်ရယူသည့် အခွင့်အရေးသည် ဤစာချုပ်ပါ "အငှားချထားသူ"က "အငှားချထားခြင်း ခံရသူ"ထံမှ ရရှိမည့် ငှားရမ်းခနှင့် ပျက်စီး ဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်များကို မထိခိုက်စေရ။

**ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၃၆။ "အငှားချထားခြင်းခံရသူ"သည် ဤစာချုပ်ပါ သက်တမ်းကုန်ဆုံးသည်ဖြစ်စေ စာချုပ်ရပ်စဲသည့်အခါဖြစ်စေ မူလငှားရမ်းစာရင်းပါ မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများတိုးချဲ့ခြင်း၊ အသစ်တည်ဆောက်ခြင်း ပြုလုပ်ထားသည့် မရွှေ့ပြောင်းနိုင်သော ပစ္စည်းနှင့် ပုံသေပိုင်ပစ္စည်းများအားလုံးကို "အငှားချထားသူ"သို့ အဖိုးအနားမပါရှိဘဲ ကောင်းမွန်သောအနေထားဖြင့် ပြန်လည် လွှဲပြောင်း ပေးအပ်ရမည်။ အကယ်၍ စာချုပ်သက်တမ်းအတွင်း မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ပျက်စီးဆုံးရှုံးမှု များရှိပါက နှစ်ဦးနှစ်ဖက်ပါဝင်သော အဖွဲ့ဖြင့် စီစစ်၍ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ စာရင်းမှပယ်ဖျက်ခြင်းကို ဆောင်ရွက်ရမည်။

**စာချုပ်ရပ်စဲခြင်း**

၃၇။ ဤစာချုပ်၏ အောက်ပါအကြောင်းကိစ္စများဖြစ်ပေါ်လာပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြခွင့်ပြုချက်ရယူ၍ ဤစာချုပ်ကို ရပ်စဲနိုင်သည် -

(က) စာချုပ်သက်တမ်းကုန်ဆုံးခြင်း၊

(ခ) လုပ်ငန်းကို ဆက်လက်လုပ်ကိုင်ရန် မဖြစ်နိုင်သည့် အခြေအနေ တစ်ခုခုဖြစ်လျှင် နှစ်ဦး သဘောတူစာချုပ်ကို ရပ်စဲခြင်း၊

(ဂ) စာချုပ်ပါ စည်းကမ်းချက် တစ်ရပ်ရပ်ကို "အငှားချထားခြင်းခံရသူ"မှ ဖောက်ဖျက်ကျူးလွန်ခြင်း၊

(ဃ) "အငှားချထားခြင်းခံရသူ"က လူမွဲအဖြစ်ခံယူခြင်း၊

(င) မလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် အငှားချထားသည့် ပစ္စည်းပျက်စီး ဆုံးရှုံးပြီး လုပ်ငန်း ဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်တော့ခြင်း။

၃၈။ စာချုပ်ရပ်စဲခြင်းသည် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်မှ စာချုပ်ပါတာဝန်ရှိသူများကို အကြောင်းကြား၍ ညှိနှိုင်းပြီး ပြီးပြတ်အောင်ရှင်းလင်းပြီးမှသာ ရပ်စဲခြင်း ပြီးမြောက်မည်။

၃၉။ စာချုပ်ရပ်စဲပြီးနောက် စာချုပ်ပါငှားရမ်းပစ္စည်းအားလုံးကို "အငှားချထားသူ"၏ လက်ဝယ်သို့ ပြန်လည်အပ်နှံရမည်။

**ကြိုတင်စည်းကမ်းသတ်မှတ်ချက်**

၄၀။ အောက်ဖော်ပြပါ သတ်မှတ်ချက်(၃)ချက် ပြီးပြည့်စုံ၍ စာချုပ်ဝင်တစ်ဦးပေါ်တစ်ဦး စာချုပ်ပါ အချက်အလက်များအရ နှောင်ဖွဲ့တာဝန်ရှိစေရမည် -

(က) ဤစာချုပ်ကို "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့၏ ခွင့်ပြုချက် ရရှိထားသော ကိုယ်စားလှယ်များက နည်းလမ်းတကျ လက်မှတ်ရေးထိုးခြင်း၊ တံဆိပ်ခတ် နှိပ်ခြင်း၊ တစ်ဦးနှင့်တစ်ဦးစာချုပ်ပေးကမ်း လဲလှယ်ခြင်း။

(ခ) စာချုပ်နှင့်ပတ်သက်၍ ပြည်ထောင်စုအစိုးရ၏ ခွင့်ပြုချက်ရရှိပြီးခြင်း။

(ဂ) ဘဏ်အာမခံပေးသွင်းပြီးခြင်း။

၄၁။ ဤစာချုပ်ပါမြေပုံနှင့် နောက်ဆက်တွဲများသည် ဤစာချုပ်၏တစ်စိတ် တစ်ဒေသ ဖြစ်သည်။

အထက်ဖော်ပြပါ စည်းကမ်းချက်များကို သဘောတူလက်ခံပါရန် အောက်ပါ သက်သေများရှေ့မှောက် တွင်ခွင့်ပြုချက်ရရှိထားသော အောက်ဖော်ပြပါ ပုဂ္ဂိုလ်များက ၂၀၁၇ ခုနှစ်၊ လ၊ ( )ရက် နေ့တွင် နေပြည်တော်၊ ………………....၌ အတည်ပြုလက်မှတ်ရေးထိုးကြသည်။

| | |
|---|---|
| အငှားချထားသူ(ကိုယ်စား) | အငှားချထားခြင်းခံရသူ (ကိုယ်စား) |
| ဦးသန့်စင် | ဦးရဲဝင်း |
| ဦးဆောင်ညွှန်ကြားရေးမှူး | မန်နေးဂျင်းဒါရိုက်တာ |
| မြန်မာ့ရေနံနှင့်ဓာတုဗေဒလုပ်ငန်း | ရတနာစုကုမ္ပဏီလီမိတက် |

အသိသက်သေ

| | |
|---|---|
| ___________________ | ___________________ |
| ___________________ | ___________________ |
| ___________________ | ___________________ |

နောက်ဆက်တွဲ ( ၁ )

## ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံအတွင်းရှိအဆောက်အဦများ

| စဉ် | တည်နေရာ | အဆောက်အဦ အမျိုးအမည် | အရေအတွက် | အမျိုးအစား | | | အရွယ်အစား | | | အသုံးပြုပုံ | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|---|---|
| | | | | အခင်း | အကာ | အမိုး | အလျား ပေ | အနံ ပေ | အမြင့် ပေ | | |
| ၁ | စက်ရုံပိုင်နယ်မြေအတွင်းရှိအဆောက်အဦ | အရာရှိအိမ် | ၃ | ကွန်ကရစ် | အုတ် | သွပ် | ၃၉' | ၂၁' | ၁၂' | ဝန်ထမ်းနေအိမ် | |
| ၂ | | ရုံးနှင့်ရှင်းလင်းဆောင် | ၁ | ။ | ဝါးထရံ | ။ | ၄၀' | ၂၈' | ၁၂' | ။ | |
| ၃ | | ကားထားရုံ | ၁ | ။ | - | ။ | ၃၀' | ၃၀' | ၁၅' | ကားထားရုံ | |
| ၄ | | ၅၂x၂၃ ပေ ရုံးအဆောက်အဦ | ၁ | ။ | အုတ် | ။ | ၅၂' | ၂၃' | ၁၁' | ရုံး | |
| ၅ | | နှစ်ခန်းတွဲဝန်ထမ်းအိမ်ရာ | ၅ | ။ | အုတ် | ။ | ၄၀' | ၃၂' | ၁၀' | နှစ်ခန်းတွဲဝန်ထမ်းအိမ်ရာ | |
| ၆ | | နှစ်ခန်းတွဲဝန်ထမ်းအိမ်ရာ | ၅ | ။ | အုတ် | ။ | ၄၀' | ၃၂' | ၁၀' | နှစ်ခန်းတွဲဝန်ထမ်းအိမ်ရာ | |
| ၇ | | အမျိုးသားဆောင်(၃) | ၁ | ။ | အုတ် | ။ | ၆၀' | ၂၆' | ၁၀' | ဝန်ထမ်းနေအိမ် | |
| ၈ | | နှစ်ခန်းတွဲဝန်ထမ်းအိမ်ရာ | ၅ | ။ | - | ။ | ၄၀' | ၃၂' | ၁၀' | နှစ်ခန်းတွဲဝန်ထမ်းအိမ်ရာ | |
| ၉ | | စတိုအဆောက်အဦ | ၁ | ။ | အုတ် | ။ | ၅၀' | ၃၀' | ၁၄' | ပစ္စည်းသိုလှောင်ရုံ | |

နောက်ဆက်တွဲ ( ၁ )

## ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံပိုင်နယ်မြေအတွင်းရှိအဆောက်အဦများ

| စဉ် | တည်နေရာ | အဆောက်အဦ အမျိုးအမည် | အရေအတွက် | အမျိုးအစား | | | အရွယ်အစား | | | အသုံးပြုပုံ | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|---|---|
| | | | | အခင်း | အကာ | အမိုး | အလျား ပေ | အနံ ပေ | အမြင့် ပေ | | |
| ၁၀ | စက်ရုံပိုင်နယ်မြေအတွင်းရှိ အဆောက်အဦ | GEG Control Building | ၁ | ကွန်ကရစ် | အုတ် | သွပ် | ၄၀' | ၂၀' | ၁၂' | | |
| ၁၁ | | GTG Control Room | ၁ | ॥ | ॥ | ॥ | ၃၀' | ၂၀' | ၁၂' | ကားထားရန်နေရာ | |
| ၁၂ | | အမျိုးသားဆောင် အမှတ်(၁) | ၁ | ॥ | ဝါးထရံ | သွပ် | ၆၀' | ၂၅' | ၁၀' | ဝန်ထမ်းနေအိမ် | |
| ၁၃ | | အမျိုးသားဆောင် အမှတ်(၂) | ၃ | ॥ | ॥ | ॥ | ၄၀' | ၂၀' | ၁၀' | ॥ | |
| ၁၄ | | အမျိုးသမီးတဆောင် | ၁ | ॥ | ॥ | ॥ | ၆၀' | ၂၅' | ၁၀' | ॥ | |
| ၁၅ | | (၂)ခန်းတွဲယာယီဆောင် | ၁ | သစ် | ဝါးထရံ | သွပ် | ၄၈' | ၂၉' | ၁၀' | ॥ | |

နောက်ဆက်တွဲ (၁)

## စွမ်းအင်ဝန်ကြီးဌာန
## မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း
### အမှတ်(၂)ရေနံဓာတ်ငွေ့ရည်စက်ရုံ(ညောင်တုန်း)စက်ရုံရှိ အသုံးပြုလျှက်ရှိသော အဆောက်အဦများစာရင်း

| စဉ် | တည်နေရာ | အဆောက်အဦ အမျိုးအမည် | အရေအတွက် | အမျိုးအစား | | | အရွယ်အစား | | | အသုံးပြုပုံ | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|---|---|
| | | | | အခင်း | အကာ | အမိုး | အလျား ပေ | အနံ ပေ | အမြင့် ပေ | | |
| ၁ | စက်ရုံအတွင်း အဆောက်အဦ | Compressor House | ၁ | ကွန်ကရစ် | - | သွပ် | ၁၈၀' | ၃၀' | ၁၅' | စက်ပစ္စည်းများထားရန် | |
| ၂ | | IA (Instrument Aircom:) | ၁ | ။ | - | ။ | ၅၀' | ၂၆' | ၁၅' | ။ | |
| ၃ | | Control Room | ၄ | ။ | - | ။ | ၂၀' | ၁၂' | ၁၀' | Control Room | |
| ၄ | | Boiler | ၁ | ။ | - | ။ | ၂၄' | ၂၄' | ၁၅' | Boiler | |
| ၅ | | Gate House | ၁ | ။ | - | ။ | ၂၀' | ၁၂' | ၁၀' | လုံခြုံရေးဂိတ် | |
| ၆ | | Bowser Filling Station | ၁ | ။ | - | ။ | ၂၀' | ၁၂' | ၁၀' | Filling Station | |
| ၇ | | စက်မှုအလုပ်ရုံ | ၁ | ။ | - | ။ | ၂၀' | ၁၂' | ၁၀' | စက်မှုအလုပ်ရုံ | |
| ၈ | | ကိရိယာဌာနအလုပ်ရုံ | ၁ | ။ | - | ။ | ၂၀' | ၁၂' | ၁၀' | ကိရိယာဌာနအလုပ်ရုံ | |
| ၉ | | GTG အလုပ်ရုံ | ၁ | ။ | - | ။ | ၃၀' | ၂၀' | ၁၀' | စက်မှုအလုပ်ရုံ | |
| ၁၀ | | 33 KV ဓာတ်အားခွဲရုံ | ၁ | သံပြား | သံပြား | သံပြား | ၁၆' | ၁၀' | ၁၂' | | |
| ၁၁ | | 6.3KV ဓာတ်အားခွဲရုံ | ၁ | ။ | ။ | ။ | ၄၀' | ၁၀' | ၁၂' | | |
| ၁၂ | | 400 V ဓာတ်အားခွဲရုံ | ၁ | ။ | ။ | ။ | ၃၀' | ၁၀' | ၁၂' | | |

ကန့်သတ်

နောက်ဆက်တွဲ (၁)

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန
မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း
အမှတ်(၂)ရေနံဓာတ်ငွေ့ရည်စက်ရုံ(ညောင်တုန်း)၏ လမ်းမြေပိုင်ဆိုင်မှုစာရင်းနှင့် အမျိုးအစား

| စဉ် | တည်နေရာ | အမည် | အရွယ်အစား | | အမျိုးအစား | အသုံးပြုပုံ | မှတ်ချက် |
|---|---|---|---|---|---|---|---|
| | | | အလျား | အနံ | | | |
| ၁ | စက်ရုံနှင့် ရန်ကုန်-ပုသိမ်လမ်းအကြား | စက်ရုံအဝင်လမ်းနယ် | 4000' | 50' | မြေယာပိုင်ဆိုင်မှု | လမ်းနယ် | |
| ၂ | ။ | စက်ရုံအဝင်လမ်း | 4000' | 12' | ကတ္တရာလမ်း | ကတ္တရာလမ်း | |

ကန့်သတ်

နောက်ဆက်တွဲ ( ၂ )

ရေနံဓာတ်ငွေ့ရည်စက်ရုံ(ညောင်တုန်း) စက်ပစ္စည်းကိရိယာများ

| စဉ် | အကြောင်းအရာ | အရေအတွက် |
|---|---|---|
| ၁ | Directly Under Apparatus | |
| ၂ | Inlet Separator | 1 |
| ၃ | Booster Butled cool | 1 |
| ၄ | Dryer | 3 |
| ၅ | Instrument control Equipment | 1 |
| ၆ | Regenarating Separator | 1 |
| ၇ | Filter | 2 |
| ၈ | Cooler | 1 |
| ၉ | Propane Refrigeration system | 1 |
| ၁၀ | Propane Reflux | 1 |
| ၁၁ | Butane Reflux | 1 |
| ၁၂ | Product Cool | 1 |
| ၁၃ | Electric Control | 2 |
| ၁၄ | Water Supply & Drainage System | 1 |
| ၁၅ | Boiler | 1 |
| ၁၆ | Instument Air System | 1 |
| ၁၇ | Pressure Swing Absorbtion | 1 |
| ၁၈ | Fire Fightinf System | 1 |
| ၁၉ | Communicating System | 1 |
| ၂၀ | Compressor System | 6 |
| ၂၁ | Boosting Turbo Expander | 2 |
| ၂၂ | Cryogenic Separator | 2 |
| ၂၃ | De-ethanizer | 1 |
| ၂၄ | Reboiler | 3 |
| ၂၅ | Storage Tank | 9 |
| ၂၆ | Liquid Hydrocarbon Pump | 11 |
| ၂၇ | Platform Balance | 1 |
| ၂၈ | Shelters | 9 |
| ၂၉ | Heating Furnae | 1 |
| ၃၀ | Honda Engine Vibrator | 2 |
| ၃၁ | Vibrator Shaft | 4 |
| ၃၂ | Shackle 38 mm | 8 |
| ၃၃ | Pump with Motor | 2 Set |
| ၃၄ | Hand Tools | |
| ၃၅ | 4.0 GTG အတွက် ပြည်ပမှာယူ စက်ပစ္စည်း + ADG | |
| ၃၆ | Water Pump & Motor | 1 Set |
| ၃၇ | Bench Grinder | 1 |

ငွေ့ရည်စက်ရုံကို ညောင်တုန်းရေနံဓာတ်ငွေ့ရည် စက်ရုံမြေနေရာသို့ ပြောင်းရွှေ့ တပ်ဆင်၍ ဌာနပိုင်မြေနှင့်တကွ စက်ရုံ(၂)ရုံကိုငှားရမ်းခြင်း၊ စက်ရုံ လည်ပတ်ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးရောင်းချခြင်းနှင့် အမြတ်ခွဲဝေမှု သဘောတူ စာချုပ်၏ နောက်ဆက်တွဲဖြစ်သော ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်(အင်းစိန်) မြေနေရာနှင့်မြေပေါ်ရှိ အဆောက်အဦနှင့် စက်ပစ္စည်းများအား ငှားရမ်း၍ ရေနံဓာတ်ငွေ့ရည်ဖြန့်ဖြူးရောင်းချရန်အတွက် ဤသဘောတူ စာချုပ် နှင့် နောက်ဆက်တွဲ စာရွက်စာတမ်းများအားလုံးကို ဆိုလိုသည်။

(ဃ) "ရေနံဓာတ်ငွေ့ရည် (Liquefied Petroleum Gas - LPG)"ဆိုသည်မှာ ပရိုပိန်း ($C_3$)၊ ဗြူတိန်း ($C_4$)၊ ပရိုပိန်းနှင့် ဗြူတိန်းအရောတို့ကို ဆိုလိုသည်။

(င) "နက်ဖ်သာ" ဆိုသည်မှာ ရေနံဓာတ်ငွေ့ရည်စက်ရုံများတွင် သဘာဝဓာတ်ငွေ့ မှ ရေနံဓာတ်ငွေ့ရည်ထုတ်လုပ်ရာတွင် ရေနံဓာတ်ငွေ့ရည်နှင့်အတူ ပူးတွဲ ထွက်ရှိသည့် ပစ္စည်းတစ်မျိုးကို ဆိုလိုသည်။

(စ) "ဝန်ထမ်း"ဆိုသည်မှာ ငှားရမ်းဆိုင်တွင် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းမှ တရားဝင်ခန့်ထားသော အမြဲတမ်းဝန်ထမ်း များကို ဆိုလိုသည်။

(ဆ) "ကူးပြောင်းဝန်ထမ်း"ဆိုသည်မှာ "အငှားချထားခြင်းခံရသူ"သို့ "အငှားချ ထားသူ" မှ အပြီးကူးပြောင်းပေးမည့် ဝန်ထမ်းများကို ဆိုလိုသည်။

**အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း**

၃။ "အငှားချထားသူ"သည် နောက်ဆက်တွဲ(ခ-၁)တွင် အသေးစိတ်ဖော်ပြထားသော မြေ၊ အဆောက်အဦများ၊ စက်ပစ္စည်းကိရိယာများနှင့် အခြားပုံသေပိုင်ပစ္စည်းများကို ပိုင်ဆိုင်သူဖြစ်ပြီး "အငှားချထားခြင်းခံရသူ"သည် စာချုပ်ကို အကောင်အထည်ဖော်ရန် ငွေကြေးပြည့်စုံပြီး စာချုပ်ပါလုပ်ငန်းကို သတ်မှတ်ချက်များအတိုင်း လုပ်ပိုင်ခွင့်ရှိသူဖြစ်ပါသည်။ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူများသည် ဤစာချုပ်ကို လက်မှတ်ရေးထိုးရန် အခွင့်အာဏာ ရှိသူများဖြစ်ကြောင်းကို အသီးသီးအာမခံကြပါသည်။

**အငှားချထားမည့်ပစ္စည်းများ**

၄။ "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ"ပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မြေကွက်အမှတ်(၁/က)၊ မြေတိုင်း ၁၁/F၊ ကြို့ကုန်းရပ်ကွက်၊ အင်းစိန်မြို့နယ်ရှိ ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင် မြေအကျယ် ဝ.၄၅၉၈ဧက (၁၈၅၇.၅၁၅ စတုရန်းမီတာ) အတွင်းရှိ နောက်ဆက်တွဲ (ခ-၁)ပါ အဆောက်အဦများနှင့် စက်ပစ္စည်း များဖြစ်ပါသည်။

**ငှားရမ်းခ**

၅။ "အငှားချထားခြင်းခံရသူ"မှ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်ရှိ ရေနံဓာတ်ငွေ့ ရည် အရောင်းဆိုင်အား တစ်နှစ်လျှင် ကျပ်(၂၀,၀၀၀,၀၀၀) (ကျပ်သိန်းနှစ်ဆယ် တိတိ)ဖြင့် ငှားရမ်းမည် ဖြစ်ပါသည်။

**အမြတ်ခွဲဝေမှု**

၆။ ရေနံဓာတ်ငွေ့ရည် သိုလှောင်၊ တင်သွင်း၊ ဖြန့်ဖြူး၊ ရောင်းချခြင်းလုပ်ငန်းမှ ရရှိသည့် အကျိုးအမြတ်မှ ကျွန်းချောင်းရေနံဓာတ်ငွေ့ရည်စက်ရုံ၊ ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံနှင့် ယခုဆိုင်အပါအဝင် ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်(၄)ဆိုင်တို့၏ ငှားရမ်းခနှင့် အမှန်တကယ် လုပ်ငန်းဆောင်ရွက်မှု ကုန်ကျစရိတ်တို့ကို နှုတ်ပယ်၍ ကျန်အကျိုးအမြတ်၏ ၅၁%အား "အငှားချထားခြင်းခံရသူ"မှ "အငှားချထားသူ"သို့ ခွဲဝေပေးရမည်။ အကျိုးအမြတ်၏ ၅၁% ခွဲဝေရာတွင် တစ်နှစ်တစ်ကြိမ် ခွဲဝေရမည်။

၇။ အရောင်းဆိုင်၏(၁)နှစ်ငှားရမ်းခငွေကို "အငှားချထားခြင်းခံရသူ"မှ ငှားရမ်းမှု မစတင်မီ ငှားရမ်းခ(၁၂)လလျှင်တစ်ကြိမ် ရက်သတ္တပတ်(၁)ပတ်အတွင်း ကြိုတင်ပေးသွင်း ရမည်။ ငှားရမ်းခကို "အငှားချထားခြင်းခံရသူ"က သတ်မှတ်ထားသည့် ဘဏ်ရှိ ငွေစာရင်းသို့ ငွေသားဖြင့် ပေးသွင်းရမည်။ စာချုပ်လက်မှတ် ရေးထိုးသည့်နေ့ရက်တွင် ငှားရမ်းမှုတန်ဖိုး၏ (၁)လစာအား ပထမနှစ်အတွက် စပေါ်ငွေအဖြစ် ထားရှိရမည်။

၈။ အရောင်းဆိုင်၏(၁)နှစ်ငှားရမ်းခကို သတ်မှတ်နေ့ရက်တွင် ပေးသွင်းရန် ပျက်ကွက်ပါက အဆိုပါ ငှားရမ်းခပေးသွင်းရန်၊ တစ်လနောက်ကျတိုင်း (၁%)ကို သတ်မှတ်ထားသော အရောင်းဆိုင်၏(၁၂)လ ငှားရမ်းခပေါ်တွင် ဒဏ်ကြေးအဖြစ်ပေးသွင်းရမည်။ နောက်ကျ ရက်လွန်ကြေးကို (၁)လချင်း ရေတွက်ပါမည်။ စုစုပေါင်းရက်လွန်ကြေးသည် (၅%)ထက်

မကျော်လွန်စေရ။ သတ်မှတ်ချိန် ကျော်လွန်ပြီး တစ်ဆက်စပ်တည်း (၆)လကြာသည်အထိ ငှားရမ်းခ သတ်မှတ်ငွေကို ပေးသွင်းခြင်း မရှိပါက စာချုပ်ကိုရပ်စဲပြီး အရောင်းဆိုင်ကို "အငှားချထားသူ"မှ ပြန်လည် လွှဲပြောင်းရယူမည်။

၉။ အရောင်းဆိုင်၏ (၁)နှစ်ငှားရမ်းခနှုန်းထားကို (၅)နှစ်လျှင်တစ်ကြိမ် နှစ်ဦးနှစ်ဖက် ဈေးနှုန်းညှိနှိုင်း သတ်မှတ်မည်ဖြစ် သည်။

၁၀။ နှစ်စဉ်ငှားရမ်းခသတ်မှတ်ရာတွင် ဒေသပေါက်ဈေးအရ အရောင်းဆိုင်၏ (၁)နှစ် ငှားရမ်းခဈေးနှုန်း တိုးမြှင့်ရန်ရှိပါက၊ အဆိုပါ တိုးမြှင့်လာသည့်ငှားရမ်းခနှုန်းသည် ယခင် ငှားရမ်းခနှုန်း ထား၏ (၂%) မှ (၅%) အတွင်းသာရှိရမည်။ သို့သော်ငှားရမ်းခနှုန်း တိုးမြှင့် ရာတွင် ငွေကြေး ဖောင်းပွမှုနှုန်းထက် လျော့နည်းမှု မရှိစေရ။

**"အငှားချထားခြင်းခံရသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

၁၁။ "အငှားချထားခြင်းခံရသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(က) နောက်ဆက်တွဲ (ခ-၁) ပါမြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းကိရိယာ၊ ပုံသေပိုင် ပစ္စည်းများကို စာချုပ်သက်တမ်းအတွင်း ငှားရမ်း၍ စာချုပ်ပါလုပ်ငန်းများကို ဆောင်ရွက်ရမည်။

(ခ) မြေခွန်မှအပ စည်ပင်သာယာခွန်အပါအဝင် ကျန်အခွန်အခအားလုံးကို ကျခံပေး ဆောင်ရမည်။ ပေးဆောင်ပြီးမိတ္တူများကို "အငှားချထားသူ"ထံ တင်ပြထား ရမည်။

(ဂ) လိုအပ်သောလုပ်ငန်းလိုင်စင်များကိုရယူ၍ သက်တမ်းတိုးခြင်း၊ လိုင်စင်ကြေး ပေးချေခြင်းကို တာဝန်ယူဆောင်ရွက်ရမည်။

(ဃ) "အငှားချထားခြင်းခံရသူ"သည် ငှားရမ်းခငွေများကို စာချုပ်ပါစည်းကမ်း ချက်များနှင့်အညီ သတ်မှတ်ချိန်အတွင်း "အငှားချထားသူ"ထံ ပေးသွင်း ရမည်။

(င) အဆောက်အဦများ ပုံစံပြောင်းလဲဆောက်လုပ်ခြင်း၊ တိုးချဲ့ဆောက်လုပ်ခြင်း၊ အသစ်ဆောက်လုပ်ခြင်းနှင့် စက်ပစ္စည်းများတိုးချဲ့ခြင်း၊ အသစ်တပ်ဆင်ခြင်း တို့ကို "အငှားချထားသူ"ထံ ခန့်မှန်းကုန်ကျစရိတ်နှင့်တကွ ကြိုတင်ခွင့်ပြု ချက်တောင်းခံ၍ စာဖြင့် အတည်ပြုချက်ရရှိပြီးမှ ဆောင်ရွက်ရမည်။

(စ) “အငှားချထားခြင်းခံရသူ”သည် အငှားချထားသော ပစ္စည်းများကို ကောင်းမွန်စွာ ထိန်းသိမ်းထားရှိရမည်ဖြစ်ပြီး၊ ပျက်စီးဆုံးရှုံးမှုများရှိပါက “အငှားချထားခြင်းခံရသူ”၏ ကုန်ကျစရိတ်ဖြင့် ပြင်ဆင်အစားထိုး လဲလှယ် ပေးရမည်။

(ဆ) အငှားချထားသောပစ္စည်းများကို “အငှားချထားခြင်းခံရသူ”မှ အခြားသူ တစ်ဦးဦး (သို့မဟုတ်) အဖွဲ့အစည်းတစ်ခုခုသို့ တစ်ဆင့်ပေါင်နှံခြင်း၊ တစ်ဆင့်ငှားရမ်းခြင်း၊ ရောင်းချခြင်း၊ လွှဲပြောင်းပေးခြင်း လုံးဝမပြုရ။

(ဇ) အငှားချထားသည့် ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်အတွက် အလုံးစုံအာမခံ၊ မီးအာမခံများအပါအဝင်၊ လိုအပ်သည့်အာမခံများ၊ ဥပဒေ၊ နည်းဥပဒေ လုပ်ထုံးလုပ်နည်းများနှင့်အညီ ထားရှိရမည်ဖြစ်ပြီး အာမခံသက်တမ်း ကျော်လွန်မှု မဖြစ်စေရေး တာဝန်ယူ ဆောင်ရွက်ရမည်။

(ဈ) အငှားချထားသည့် ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်တွင် တပ်ဆင်မှုများ၊ ပုံစံပြောင်းလဲမှုများနှင့်တိုးချဲ့မှုများသည် ငှားရမ်းခြင်းစာချုပ်ရပ်စဲချိန်တွင် အဖိုးစားနားပေးရန်မလိုဘဲ “အငှားချထားသူ”ပိုင်ပစ္စည်းများ အလိုအလျှောက် ဖြစ်လာရမည်။

(ည) အငှားချထားသည့် ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်အတွက် တည်ဆဲဥပဒေများနှင့် မညီညွတ်သောလုပ်ငန်းများမဆောင်ရွက်ရ။ စာချုပ်ပါလုပ်ငန်းများကို ဆောင်ရွက်ရမည်ဖြစ်ပြီး လုပ်ငန်းသစ်ထပ်မံတိုးချဲ့ ဆောင်ရွက်လိုပါက “အငှားချထားသူ”ထံ ကြိုတင်တင်ပြခွင့်ပြုချက်ရယူ ပြီးမှ ဆောင်ရွက် ရမည်။ သို့သော် ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်တွင် ဆလင်ဒါများ၊ မီးဖိုနှင့် အရံပစ္စည်းများ၊ မီးသတ်ဆေးဗူးများ စသော ဆက်စပ်ပစ္စည်း များကို ရောင်းချခြင်း မွမ်းမံပြင်ဆင်ခြင်း များကိုလည်း ဆောင်ရွက်နိုင်သည်။

(ဋ) ထပ်မံဝယ်ယူသည့် မရွှေ့ပြောင်းနိုင်သောပစ္စည်းများနှင့် အငှားချထားသူ၏ မူလပိုင်ဆိုင်သည့် ပစ္စည်းများအား စာချုပ်ရပ်စဲသည့်အချိန်တွင် “အငှားချထားသူ” သို့ လက်ရောက်ပြန်လည် လွှဲပြောင်းအပ်နှံရမည်။

(ဌ) “အငှားချထားခြင်းခံရသူ”သည် အပိုဒ်(၅)အရ ငှားရမ်းခကို “အငှားချ ထားသူ” သို့ ပေးဆောင်ရမည်။

(ဃ) ဤစာချုပ်ပါ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်အား စတင်ငှားရမ်းသည့်အချိန်ရှိ ဆိုင်နှင့်ပတ်သက်သည့် ဌာနအလိုက် စာရွက်စာတမ်းများ၊ စာရင်းများကို ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး၏ စာရင်းစစ် အစစ်ဆေးခံနိုင်ရန်နှင့် အခြား လိုအပ်သည်များ ဆောင်ရွက်နိုင်ရန် "အငှားချထားခြင်းခံရသူ"နှင့် ညှိနှိုင်း၍ စနစ်တကျ ထိန်းသိမ်းထားရှိရမည်။

(ဏ) ကုန်သွယ်လုပ်ငန်းခွန်ပင်ရင်းမှ နုတ်ယူပေးသွင်းသည့် ဝင်ငွေခွန် (Withholing Tax) နှင့် တံဆိပ်ခေါင်းခွန်တို့ကို "အငှားချထားခြင်းခံရသူ" မှ တာဝန်ယူ ပေးဆောင်ရမည်။

## "အငှားချထားသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ

၁၂။ "အငှားချထားသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) "အငှားချထားခြင်းခံရသူ"အား နောက်ဆက်တွဲ(ခ-၁)ပါ အငှားချထားသော ပစ္စည်းများကို အသုံးပြုခွင့်ပေးရမည်။

(ခ) "ငှားရမ်းခနှင့်အကျိုးအမြတ်ခွဲဝေမှု"ကို အပိုဒ်(၅)အရ "အငှားချထားခြင်းခံရ သူ"ထံ မှ ရပိုင်ခွင့်ရှိသည်။

(ဂ) ရေနံဓာတ်ငွေ့ရည်ဆိုင်တွင် တပ်ဆင်ထားပြီးဖြစ်သော လျှပ်စစ်ဓါတ်အားလိုင်း၊ ရေပိုက်လိုင်း၊ တယ်လီဖုန်းလိုင်းတို့ကို "အငှားချထားခြင်းခံရသူ" အား ဆက်လက် အသုံးပြုခွင့်ပေးရမည်။

(ဃ) အငှားချထားသည့် ရေနံဓာတ်ငွေ့ရည်ဆိုင်များ အခြေအနေကိုလည်းကောင်း၊ ရေနံဓာတ်ငွေ့ရည်များ၏ အရည်အသွေးကိုလည်းကောင်း၊ "အငှားချထားသူ" မှ လုပ်ပိုင်ခွင့် ပေးအပ်ထားသော ကိုယ်စားလှယ်များမှ အခါအားလျှော်စွာ စစ်ဆေးနိုင်ခွင့်ရှိသည်။ "အငှားချထားခြင်းခံရသူ"ထံ ကြိုတင် အကြောင်း ကြားပြီး ငှားရမ်းထားသော ဧရိယာများ အတွင်းသို့ ဝင်ထွက်ခွင့်ရှိသည်။

(င) "အငှားချထားသူ"သည် မြေခွန်ကိုပေးဆောင်ရမည်။ အခြားအခွန်အခနှင့် လိုင်စင်ကြေးများအချိန်မီ ပေးဆောင်မှု ရှိ/မရှိ စိစစ်ရမည်။ အာမခံ သက်တမ်းကျော်လွန်မှု ရှိ/မရှိ စိစစ်ထားရမည်။

(စ) စာချုပ်စည်းကမ်း ဖောက်ဖျက်မှုကြောင့်မဟုတ်ဘဲ လုပ်ငန်းရပ်စဲရန် အကြောင်း ကိစ္စပေါ်ပေါက်လာပါက "အငှားချထားခြင်းခံရသူ"၏ ရင်းနှီးမြှုပ်နှံမှုများ နစ်နာမှု မရှိစေရန် နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး စီမံပေးမည်။

(ဆ) စာချုပ်သက်တမ်းကုန်ဆုံးချိန် (သို့မဟုတ်) စာချုပ်ရပ်စဲချိန်တွင် မရွှေ့ပြောင်းနိုင်သော အဆောက်အဦ၊ စက်ပစ္စည်းတိုးချဲ့မှု၊ ပုံစံပြောင်းလဲမှု၊ အသစ်တည်ဆောက်မှုတို့အပါအဝင် မူလအငှားချထားသောပစ္စည်းများကို "အငှားချထားခြင်းခံရသူ"ထံမှ အဖိုးစားနားမပါရှိဘဲ ပြန်လည်လက်ရောက် ရယူခွင့် ရှိသည်။

(ဇ) အငှားချထားသည့်ပစ္စည်းများနှင့်ပတ်သက်၍ ငှားရမ်းမှုမစတင်မီပေးရန်၊ ရရန်စာရင်းများနှင့်လည်းကောင်း၊ ကုန်ချောနှင့်မြေပြင်လက်ကျန်စာရင်းရှိပစ္စည်းသည်လည်းကောင်း "အငှားချထားသူ"နှင့်သာသက်ဆိုင်သည်။

**စာချုပ်အကျိုးသက်ရောက်သည့်နေ့**

၁၃။ စာချုပ်အကျိုးသက်ရောက်သည့်နေ့ကို "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ" တို့ လက်မှတ်ရေးထိုးပြီးသည့်နောက် ဘဏ်အာမခံ (Performance Bank Guarantee) ပေးသွင်းပြီး သည့်နေ့မှစ၍ သတ်မှတ်ရမည်။

**စာချုပ်သက်တမ်း**

၁၄။ စာချုပ်သက်တမ်းသည် စာချုပ်အကျိုးသက်ရောက်သည့် နေ့မှစ၍ နှစ်(၃၀) ဖြစ်ပါသည်။ "အငှားချထားခြင်းခံရသူ"က စာချုပ်သက်တမ်းမကုန်မီ (၆)လကြိုတင်၍ ဆက်လက်ငှားရမ်းလိုကြောင်းတင်ပြလာလျှင် "အငှားချထားသူ"မှလည်း သဘောတူညီပါက တစ်ကြိမ်လျှင်(၅)နှစ်ဖြင့် နှစ်ကြိမ်သက်တမ်းတိုးမြှင့် ငှားရမ်း ဆောင်ရွက် နိုင်သည်။

**ဝန်ထမ်းရေးရာစည်းကမ်းချက်များ**

၁၅။ ဝန်ထမ်းများနှင့်စပ်လျဉ်း၍ နှစ်ဦးနှစ်ဖက်ဆွေးနွေးညှိနှိုင်းပြီး ဝန်ထမ်းများ၏ဆန္ဒများရယူပြီး တည်ဆဲနိုင်ငံ့ဝန်ထမ်းဥပဒေ၊ နည်းဥပဒေများနှင့်အညီ ညှိနှိုင်း ဆောင်ရွက်ရမည်ဖြစ်ပြီး အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီး ဌာနမှသတ်မှတ်ထားသောပုံစံဖြင့် သီးခြားစာချုပ်ချုပ်ဆိုရမည်။ ဝန်ထမ်းရေးရာများအား တည်ဆဲဥပဒေ၊ နည်းဥပဒေများနှင့်အညီ ဆောင်ရွက်ရမည်။

**လုပ်ငန်းဆောင်ရွက်မှု အာမခံနှင့်သက်တမ်း**

၁၆။ "အငှားချထားခြင်းခံရသူ"သည် စာချုပ်လက်မှတ်ရေးထိုးပြီး တစ်လအတွင်း လုပ်ငန်းဆောင်ရွက်မှုအာမခံအဖြစ် စာချုပ်အရ ကျသင့်မည့်အရောင်းဆိုင်၏ တစ်နှစ်ငှားရမ်းခငွေပေါ်တွင် (၁၀%)နှင့်ညီမျှသော မြန်မာကျပ်ငွေကို (၅)နှစ်သက်တမ်းရှိ ဘဏ်အာမခံဖြင့်

မြန်မာ့စီးပွားရေးဘဏ်မှတဆင့် "အငှားချထားသူ"ထံ မူရင်းပေးသွင်းရမည်။ စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်ပါက လုပ်ငန်းဆောင်ရွက်မှုအဖြစ် ပေးသွင်းထားသောဘဏ်အာမခံကို "အငှားချထားသူ" မှ သိမ်းယူမည်။

**ဘဏ်အာမခံ၏သက်တမ်း**

၁၇။ ဘဏ်အာမခံ၏သက်တမ်းသည် (၅)နှစ်ဖြစ်ပြီး သက်တမ်းမကုန်ဆုံးမီ တစ်လ အလိုတွင် "အငှားချထားခြင်းခံရသူ"သည် ငှားရမ်းသက်တမ်းကုန်ဆုံးသည်အထိ (၅)နှစ်တစ်ကြိမ် ပြန်လည် တင်သွင်းရမည်။ မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ တည်ဆဲ ဥပဒေများအတိုင်း ဆောင်ရွက်ရပါမည်။

**အငြင်းပွားမှုဖြေရှင်းခြင်း**

၁၈။ ဤစာချုပ်နှင့် စပ်လျဉ်း၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက် ပြေလည်စွာညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်းမရပါကထိုအငြင်းပွားမှုကို ဖြေရှင်းခြင်းသည် ပြည်ထောင်စုလွှတ်တော်ဥပဒေအမှတ် ၅/၂၀၁၆ အရ ပြဋ္ဌာန်းခဲ့သော မြန်မာနိုင်ငံ ၅/၂၀၁၆ အနုညာတ စီရင်ဆုံးဖြတ်ခြင်း ဥပဒေနှင့် နောက်ထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက် များနှင့်အညီဖြစ်ရမည်။ အနုညာတ စီရင်ဆုံးဖြတ်မည့်နေရာသည် နေပြည်တော် ဖြစ်ရမည်။ အမှုကုန်ကျစရိတ်ကို အမှုရှုံးသူမှကျခံရမည်။

**လျှို့ဝှက်ထိန်းသိမ်းခြင်း**

၁၉။ စာချုပ်ဝင်များသည် စာချုပ်ပါအကြောင်းအရာများကို အတွင်းရေးအဖြစ် လျှို့ဝှက် ထိန်းသိမ်းရမည်။ ၎င်းအကြောင်းအရာများကို အုပ်ချုပ်မှုဆိုင်ရာ စီမံခန့်ခွဲရေးနှင့်တရား စီရင်မှုအရ ထုတ်ဖော် အသိပေးခြင်းမှအပ အခြားထုတ်ဖော်အသိပေးခြင်း မပြုရ။ ဝန်ထမ်းရေးရာကိစ္စရပ်ဆိုင်ရာ အပိုင်းများကိုမူ ဝန်ထမ်းများသို့ အသိပေးရှင်းလင်း ခွင့်ရှိသည်။

**သယံဇာတပစ္စည်းများဆိုင်ရာကိစ္စ**

၂၀။ အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းအတွင်း လုပ်ငန်းဆောင်ရွက်သည့် မြေပေါ်မြေအောက်မှ ဓါတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓာတ်ငွေ့ဆိုင်ရာပစ္စည်းများ၊ သဘာဝ သယံဇာတပစ္စည်းများနှင့် ရှေးဟောင်းပစ္စည်းများတွေ့ရှိလျှင် အငှားချထားသူသို့ ချက်ချင်း အကြောင်းကြားရမည်။ ၎င်းပစ္စည်းများကို "အငှားချထားသူ"ကသာ သက်ဆိုင်ပြီး

"အငှားချထားသူ"နှင့် သက်ဆိုင်ရာအဖွဲ့အစည်းများသည် မည်သည့်အချိန်၌မဆို လွတ်လပ်စွာ တူးဖော်စီမံဆောင်ရွက်ခွင့်ရှိစေရမည်။ ရှေးဟောင်းပစ္စည်းများ မထိခိုက်အောင် ထိန်းသိမ်းစောင့်ရှောက်ရမည်။

**သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းခြင်း**

၂၁။ "အငှားချထားခြင်းခံရသူ"သည် သဘာဝပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအမံ "Environmental Management Plan" ကိုစာချုပ်ချုပ်ဆိုပြီး (၁)နှစ်အတွင်း စတင်ရေးဆွဲ၍ တည်ဆဲဥပဒေ၊ နည်းဥပဒေ ညွှန်ကြားချက်များကို လိုက်နာပြီး သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးကိုအလေးထား စောင့်ရှောက်ရမည်။ ဤလုပ်ငန်းဆောင်ရွက်မှုအတွက် ဖြစ်ပေါ်မည့်ပြဿနာများ၊ ရွှေ့ပြောင်းတပ်ဆင်မှုများကို "အငှားချထားခြင်းခံရသူ"မှ တာဝန်ယူဖြေရှင်းရမည်။

**လုပ်ငန်းခွင်ဘေးအန္တရာယ်ကင်းရှင်းရေး**

၂၂။ "အငှားချထားခြင်းခံရသူ"သည် လုံခြုံရေး၊ လုပ်ငန်းခွင်ကျန်းမာရေး၊ လုပ်ငန်းခွင်ဘေးအန္တရာယ်ကင်းရှင်းရေး၊ အရည်အသွေးထိန်းသိမ်းရေး၊ ရေဘေး၊ လေဘေး၊ မီးဘေး စသောသဘာဝဘေးအန္တရာယ်ကာကွယ်ရေးစီမံချက်များ ရေးဆွဲထားရှိပြီး အဆောက်အဦများ လုံလောက်စွာထားရှိရမည်။ လျှပ်စစ်နှင့်ဘွိုင်လာကို တည်ဆဲဥပဒေ စည်းမျဉ်းစည်းကမ်းများနှင့်အညီ သုံးစွဲမည်။ လုပ်ငန်းခွင်ဘေးအန္တရာယ်ကင်းရှင်းရေးအတွက် သတ်မှတ်ထားသော Safety Precaution များနှင့်အညီ လုပ်ငန်းများကို ဆောင်ရွက် ရမည်။

**မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

၂၃။ စာချုပ်ဝင်တစ်ဦးဦးသည် စာချုပ်ပါတာဝန်များကို ရေဘေး၊ မီးဘေး၊ မြေငလျင်ဘေး၊ ရောဂါကပ်ဘေး၊ လေဘေး၊ အစိုးရ ကန့်သတ်ချက်များ၊ တရားဥပဒေနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည့်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သောသတိဝိရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး ယင်းမလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ယာယီအားဖြင့် မထမ်းဆောင်နိုင်ခဲ့သော် ယင်းသို့သောအခြေအနေကို အခြားတစ်ဖက်စာချုပ်ဝင်သို့ ရက်ပေါင်း(၆၀)အတွင်း အကြောင်းကြားရမည်။ တစ်ဖက်စာချုပ်ဝင်က လက်ခံလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်သည်။ မလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် ယင်းကာလအတွင်းဖြစ်ပေါ်သော

ကြန့်ကြာမှု၊ ဆုံးရှုံးမှုများကြောင့် မည်သည့်စာချုပ်ဝင်မျှ တာဝန်မရှိစေရ။ ၎င်းဖြစ်ရပ်များသည် (၆)လ ဆက်တိုက် အဆီးအတားဖြစ်နေပါက စာချုပ်ဝင်နှစ်ဖက်သည် ဆွေးနွေးတိုင်ပင်၍ စာချုပ်ပြင်ဆင် ခြင်း၊ ဆိုင်းငံ့ခြင်းဆောင်ရွက်ရမည်။

**စာချုပ်အားပြန်လည်စေ့စပ်ညှိနှိုင်းခြင်း**

၂၄။ ဤသဘောတူစာချုပ်၌ ပါရှိသည့် စည်းကမ်းချက်များသည် လုပ်ငန်းများအမှန်တကယ် အကောင်အထည်ဖော်ဆောင်ရွက်သည့်အခါ မမျှော်မှန်းနိုင်သော အခြေအနေတစ်ရပ်ရပ်ကြောင့် စာချုပ်ပါလုပ်ငန်းများ ဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်လျှင် စာချုပ်ဝင်များသည် နှစ်ဦးနှစ်ဖက် စေ့စပ်ညှိနှိုင်းပြီး စာချုပ်ပါစည်းကမ်းချက်များကို ပြန်လည်စေ့စပ်ညှိနှိုင်း၍ ဆောင်ရွက်ရမည်။

**စာချုပ်အားပြင်ဆင်ဖြည့်စွက်ခြင်း**

၂၅။ စာချုပ်စည်းကမ်းများကိုပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်း၊ ထပ်မံဖြည့်သွင်းခြင်းကို ပြုလုပ်လိုပါက "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့သည် နှစ်ဦးနှစ်ဖက် တရားဝင်စာဖြင့် သဘောတူညီချက်ဖြင့် လုပ်ထုံးလုပ်နည်းများနှင့်အညီ လျှပ်စစ်နှင့်စွမ်းအင် ဝန်ကြီးဌာနသို့ တင်ပြဆောင်ရွက်ရမည်။

**ပြန်လည်ဝင်ရောက်ခွင့်**

၂၆။ "အငှားချထားခြင်းခံရသူ"သည် ဤသဘောတူစာချုပ်ပါသည့် စည်းကမ်းချက်များကို လိုက်နာရန်ပျက်ကွက်ပါက ထိုသို့ပျက်ကွက်မှုအတွက် "အငှားချထားသူ"က ပေးပို့သော အကြောင်းကြားစာရရှိပြီးနောက် ရက်ပေါင်း(၆၀)အတွင်း ပျက်ကွက်မှုကို ပြန်လည်ပြင်ဆင်ခြင်းမပြုလျှင် "အငှားချထားသူ"သည် ဘဏ်အာမခံငွေကို သိမ်းယူပြီး ငှားရမ်းသည့် စက်ရုံ၊ ဆိုင်၊ မြေ တို့ကို ပြန်လည်ဝင်ရောက်ရယူခွင့်ရှိသည်။ ထို့အပြင် ထိုသို့ ပြန်လည်ဝင်ရောက်ရယူချိန်မှစ၍ စာချုပ်ရပ်စဲရမည်။ ယင်းသို့ဝင်ရောက်၍ တက်ရောက် ရယူသည့် အခွင့်အရေးသည် ဤစာချုပ်ပါ "အငှားချထားသူ"က "အငှားချထားခြင်းခံရသူ" ထံမှရရှိမည့် ငှားရမ်းခနှင့်ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်များကို မထိခိုက်စေရ။

## ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

၂၇။ “အငှားချထားခြင်းခံရသူ” ဤစာချုပ်ပါသက်တမ်းကုန်ဆုံးသည့်အခါဖြစ်စေ စာချုပ်ရုပ်စဲသည့်အခါဖြစ်စေ မူလငှားရမ်းစာရင်းပါမြေ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများတိုးချဲ့ခြင်း၊ အသစ်တည်ဆောက်ခြင်းပြုလုပ်ထားသည့် မရွှေ့ပြောင်းနိုင်သော ပစ္စည်းနှင့်ပုံသေပိုင်ပစ္စည်းများအားလုံးကို “အငှားချထားသူ”သို့ အဖိုးအနားမပါရှိဘဲ ကောင်းမွန်သောအနေအထားဖြင့် ပြန်လည်လက်ရောက် လွှဲပြောင်းပေးအပ်ရမည်။ အကယ်၍ စာချုပ်သက်တမ်းအတွင်း မလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် ပျက်စီးဆုံးရှုံးမှုများရှိပါက နှစ်ဦးနှစ်ဖက်ပါဝင်သောအဖွဲ့ဖြင့် စိစစ်၍ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ နှင့်အညီ စာရင်းမှပယ်ဖျက်ခြင်းကို ဆောင်ရွက်ရမည်။

## စာချုပ်ရုပ်စဲခြင်း

၂၈။ ဤစာချုပ်၏ အောက်ပါအကြောင်းကိစ္စများ ဖြစ်ပေါ်လာပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခွင့်ပြုချက်ရယူ၍ စာချုပ်ကိုရုပ်စဲနိုင်သည် -

(က) စာချုပ်သက်တမ်းကုန်ဆုံးခြင်း၊

(ခ) လုပ်ငန်းကို ဆက်လက်လုပ်ကိုင်ရန် မဖြစ်နိုင်သည့် အခြေအနေတစ်ခုခု ဖြစ်လျှင် နှစ်ဦး သဘောတူစာချုပ်ကို ရုပ်စဲခြင်း၊

(ဂ) စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို “အငှားချထားခြင်းခံရသူ”မှဖောက်ဖျက်ကျူးလွန်ခြင်း၊

(ဃ) “အငှားချထားခြင်းခံရသူ”က လူမွဲအဖြစ်ခံယူခြင်း၊

(င) မလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် အငှားချထားသည့် ပစ္စည်းပျက်စီးဆုံးရှုံးပြီး လုပ်ငန်းဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်တော့ခြင်း၊

၂၉။ စာချုပ်ရုပ်စဲခြင်းသည် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်မှ စာချုပ်ပါတာဝန်ရှိသူများကို အကြောင်းကြား၍ညှိနှိုင်းပြီး ပြီးပြတ်အောင်ရှင်းလင်းပြီးမှသာ ရုပ်စဲခြင်းပြီးမြောက်မည်။

၃၀။ စာချုပ်ရုပ်စဲပြီးနောက် စာချုပ်ပါငှားရမ်းပစ္စည်းအားလုံးကို “အငှားချထားသူ”၏ လက်ဝယ် သို့ပြန်လည်အပ်နှံရမည်။

**ကြိုတင်စည်းကမ်းသတ်မှတ်ချက်**

၃၁။ အောက်ဖော်ပြပါ သတ်မှတ်ချက်(၃)ချက် ပြီးပြည့်စုံ၍ စာချုပ်ဝင်တစ်ဦးပေါ်တစ်ဦး စာချုပ်ပါ အချက်အလက်များအရ နှောင်ဖွဲ့တာဝန်ရှိစေရမည် -

(က) ဤစာချုပ်ကို "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ" တို့၏ ခွင့်ပြုချက်ရရှိထားသော ကိုယ်စားလှယ်များက နည်းလမ်းတစ်ကျ လက်မှတ်ရေးထိုးခြင်း၊ တံဆိပ်ခတ်နှိပ်ခြင်း၊ တစ်ဦးနှင့်တစ်ဦး စာချုပ် ပေးကမ်းလဲလှယ်ခြင်း။

(ခ) စာချုပ်နှင့်ပတ်သက်၍ ပြည်ထောင်စုအစိုးရ၏ ခွင့်ပြုချက်ရရှိပြီးခြင်း။

(ဂ) ဘဏ်အာမခံပေးသွင်းပြီးခြင်း။

၃၂။ ဤစာချုပ်ပါမြေပုံနှင့် နောက်ဆက်တွဲများသည် ငှားရမ်းခြင်း၊ အကျိုးအမြတ်ခွဲဝေခြင်း သဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်သည်။

အထက်ဖော်ပြပါ စည်းကမ်းချက်များကို သဘောတူလက်ခံပါရန် အောက်ပါ သက်သေများ ရှေ့မှောက်တွင် ခွင့်ပြုချက်ရရှိထားသော အောက်ဖော်ပြပါ ပုဂ္ဂိုလ်များက ၂၀၁၇ ခုနှစ်၊ လ၊ ( ) ရက်နေ့တွင် နေပြည်တော်၊ …………….. ၌ အတည်ပြုလက်မှတ်ရေးထိုးကြသည်။

| | |
|---|---|
| အငှားချထားသူ (ကိုယ်စား) | အငှားချထားခြင်းခံရသူ(ကိုယ်စား) |
| ဦးသန့်စင် | ဦးရဲဝင်း |
| ဦးဆောင်ညွှန်ကြားရေးမှူး | မန်နေးဂျင်းဒါရိုက်တာ |
| မြန်မာ့ရေနံနှင့်ဓာတုဗေဒလုပ်ငန်း | ရတနာစုကုမ္ပဏီလီမိတက် |

အသိသက်သေ

| | |
|---|---|
| ------------------- | ------------------- |
| ------------------- | ------------------- |
| ------------------- | ------------------- |

နောက်ဆက်တွဲ(ဃ)

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း

နှင့်

ရတနာစုကုမ္ပဏီလီမိတက်

တို့အကြား

ရေနံဓါတ်ငွေ့ရည်အရောင်းဆိုင်(မြောက်-ဒဂုံ)ငှားရမ်းခြင်းအတွက်

နောက်ဆက်တွဲ သဘောတူစာချုပ်

စာချုပ်အမှတ်(          )/

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊     လ၊     ရက်     နေပြည်တော်

# လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

# မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း

# နှင့်

# ရတနာစုကုမ္ပဏီလီမိတက်

# တို့အကြား

# ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(မြောက်-ဒဂုံ)ငှားရမ်းခြင်းအတွက်

# နောက်ဆက်တွဲ သဘောတူစာချုပ်

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း ကြီးကြပ်မှုအောက်ရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(မြောက်-ဒဂုံ)ငှားရမ်းခြင်းဆောင်ရွက်ရန်( .၂၀၁၇) ရက်နေ့က ကျင်းပသော ပြည်ထောင်စုအစိုးရ အဖွဲ့ရုံး၏ အစည်းအဝေးအမှတ်စဉ် ( ) ခွင့်ပြုချက်အရ ရတနာစုကုမ္ပဏီလီမိတက်နှင့် သဘောတူစာချုပ် ချုပ်ဆိုခြင်းဖြစ်ပါသည်။

ဤငှားရမ်းခြင်း သဘောတူစာချုပ်ကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံ၊ နေပြည်တော်တွင် ၂၀၁၇ ခုနှစ်၊ လ၊ ( )ရက်နေ့၌ ဦးသန့်စင် ဦးဆောင်ညွှန်ကြားရေးမှူး၊ "မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း" လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန ကိုယ်စားပြုသော(ဤမှ နောင်တွင် "အငှားချထားသူ" ဟု ရည်ညွှန်းခေါ် ဆိုမည်ဖြစ်ပြီး ယင်းဖော်ပြချက်၏ စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော် လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင် ကွဲလွဲခြင်း မရှိပါက ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရ လွှဲပြောင်းခြင်းခံရသူများ ပါဝင်သည်)က တစ်ဖက် နှင့် မန်နေးဂျင်းဒါရိုက်တာ ဦးရဲဝင်း၊ နိုင်ငံသားစိစစ်ရေးကဒ်ပြားအမှတ် (၁၂/ကခက(နိုင်)၀၀၀၀၂၁) ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းထားသည့် ရတနာစုကုမ္ပဏီလီမိတက်၊ ရန်ကုန်တိုင်း ဒေသကြီး၊ လှိုင်မြို့နယ်၊ (၂)ရပ်ကွက်၊ သီရိ(၃)လမ်း၊ ခြံအမှတ်(၁) (ဤမှနောင်တွင် "အငှားချထားခြင်းခံရသူ"ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ပြီး

ယင်းဖော်ပြချက်၏ စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်ပါသည်)က အခြားတစ်ဖက်တို့သည် အောက်ပါအတိုင်း စာချုပ် ချုပ်ဆို ကြပါသည်။

**ရည်ရွယ်ချက်**

၁။ "အငှားချထားသူ" ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး၊ မြေကွက်အမှတ် (၈၇၃/၁)၊ မဟာဗန္ဓုလလမ်း၊ (၃၇)ရပ်ကွက်မြောက်-ဒဂုံမြို့နယ်ရှိ ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်တွင် "အငှားချထားခြင်းခံရသူ"မှ ချက်လုပ်၊ ဝယ်ယူ၊ တင်သွင်းမည့် ရေနံဓာတ်ငွေ့ရည်များ ဖြန့်ဖြူးရောင်းချခြင်းအား ဆောင်ရွက်နိုင်ရန် ရည်ရွယ်လျက် ဤစာချုပ်ကို နှစ်ဖက်သဘောတူ ချုပ်ဆိုခြင်းဖြစ်ပါသည်။

**အဓိပ္ပါယ်ဖွင့်ဆိုခြင်း**

၂။ စာချုပ်ပါစကားရပ်များကို အောက်ပါအတိုင်း အဓိပ္ပါယ်ဖွင့်ဆိုပါသည် -

(က) "အငှားချထားသူ" ဆိုသည်မှာ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော "မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း" လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနကို ဆိုလိုပါသည်။ ယင်းဖော်ပြချက်၏ စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင် ကွဲလွဲခြင်းမရှိပါက ၎င်း၏ ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။

(ခ) "အငှားချထားခြင်းခံရသူ"ဆိုသည်မှာ မန်နေးဂျင်းဒါရိုက်တာ ဦးရဲဝင်း၊ နိုင်ငံသားစိစစ်ရေးကဒ်ပြားအမှတ်(၁၂/ကခက(နိုင်)၀၀၀၀၂၁) ကိုယ်စားပြုသော "ရတနာစု ကုမ္ပဏီလီမိတက်" ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ (၂)ရပ်ကွက်၊ သီရိ(၃)လမ်း၊ ခြံအမှတ်(၁)ကို ဆိုလိုပါသည်။ ယင်းဖော်ပြချက်၏ စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများပါဝင်သည်။

(ဂ) "စာချုပ်"ဆိုသည်မှာ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့် ရတနာစုကုမ္ပဏီလီမိတက်တို့အကြား ကျွန်းချောင်းရေနံဓါတ်

ငွေ့ရည်စက်ရုံကို ညောင်တုန်းရေနံဓာတ်ငွေ့ရည် စက်ရုံမြေနေရာသို့ ပြောင်းရွှေ့တပ်ဆင်၍ ဌာနပိုင်မြေနှင့်တကွ စက်ရုံ(၂)ရုံကိုငှားရမ်းခြင်း၊ စက်ရုံ လည်ပတ်ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးရောင်းချခြင်းနှင့် အမြတ်ခွဲဝေမှု သဘောတူစာချုပ်၏ နောက်ဆက်တွဲဖြစ်သော ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်(မြောက်-ဒဂုံ) မြေနေရာနှင့်မြေပေါ်ရှိ အဆောက်အဦနှင့် စက်ပစ္စည်းများအား ငှားရမ်း၍ ရေနံဓာတ်ငွေ့ရည်ဖြန့်ဖြူးရောင်းချရန်အတွက် ဤသဘောတူ စာချုပ် နှင့် နောက်ဆက်တွဲစာရွက်စာတမ်းများအားလုံးကို ဆိုလိုသည်။

(ဃ) “ရေနံဓာတ်ငွေ့ရည် (Liquefied Petroleum Gas - LPG)”ဆိုသည်မှာ ပရိုပိန်း ($C_3$)၊ ဗြူတိန်း ($C_4$)၊ ပရိုပိန်းနှင့် ဗြူတိန်းအရောတို့ကို ဆိုလိုသည်။

(င) “နက်ဖ်သာ” ဆိုသည်မှာ ရေနံဓာတ်ငွေ့ရည်စက်ရုံများတွင် သဘာဝဓာတ်ငွေ့ မှ ရေနံဓာတ်ငွေ့ရည်ထုတ်လုပ်ရာတွင် ရေနံဓာတ်ငွေ့ရည်နှင့်အတူ ပူးတွဲ ထွက်ရှိသည့် ပစ္စည်းတစ်မျိုးကို ဆိုလိုသည်။

(စ) “ဝန်ထမ်း”ဆိုသည်မှာ ငှားရမ်းဆိုင်တွင် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းမှ တရားဝင်ခန့်ထားသော အမြဲတမ်းဝန်ထမ်းများကို ဆိုလိုသည်။

(ဆ) “ကူးပြောင်းဝန်ထမ်း”ဆိုသည်မှာ “အငှားချထားခြင်းခံရသူ”သို့ “အငှားချထားသူ” မှ အပြီးကူးပြောင်းပေးမည့် ဝန်ထမ်းများကို ဆိုလိုသည်။

**အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း**

၃။ “အငှားချထားသူ”သည် နောက်ဆက်တွဲ(ဂ-၁)တွင် အသေးစိတ်ဖော်ပြထားသော မြေ၊ အဆောက်အဦများ၊ စက်ပစ္စည်းကိရိယာများနှင့် အခြားပုံသေပိုင်ပစ္စည်းများကို ပိုင်ဆိုင်သူဖြစ်ပြီး “အငှားချထားခြင်းခံရသူ”သည် စာချုပ်ကို အကောင်အထည်ဖော်ရန် ငွေကြေး ပြည့်စုံပြီး စာချုပ်ပါလုပ်ငန်းကို သတ်မှတ်ချက်များအတိုင်း လုပ်ပိုင်ခွင့်ရှိသူဖြစ်ပါသည်။ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူများသည် ဤစာချုပ်ကို လက်မှတ်ရေးထိုးရန် အခွင့်အာဏာရှိသူများ ဖြစ်ကြောင်းကို အသီးသီးအာမခံ ကြပါသည်။

**အငှားချထားမည့်ပစ္စည်းများ**

၄။ "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ"ပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မြေကွက်အမှတ်(၈၇၃/၁)၊ မဟာဗန္ဓုလလမ်း၊ (၃၇)ရပ်ကွက် မြောက်-ဒဂုံမြို့နယ်ရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင် မြေအကျယ် ဝ.၈၆၈၈ဧက (၃၅၁၂.၆၈၅ စတုရန်းမီတာ) အတွင်းရှိ နောက်ဆက်တွဲ (ဂ-၁)ပါ အဆောက်အဦများနှင့် စက်ပစ္စည်း များဖြစ်ပါသည်။

**ငှားရမ်းခ**

၅။ "အငှားချထားခြင်းခံရသူ"မှ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်-ဒဂုံမြို့နယ်ရှိ ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်အား တစ်နှစ်လျှင် ကျပ်(၂၀,၀၀၀,၀၀၀) (ကျပ်သန်းနှစ်ဆယ် တိတိ)ဖြင့် ငှားရမ်းမည် ဖြစ်ပါသည်။

**အမြတ်ခွဲဝေမှု**

၆။ ရေနံဓာတ်ငွေ့ရည် သိုလှောင်၊ တင်သွင်း၊ ဖြန့်ဖြူး၊ ရောင်းချခြင်းလုပ်ငန်းမှ ရရှိသည့် အကျိုးအမြတ်မှ ကျွန်းချောင်းရေနံဓာတ်ငွေ့ရည်စက်ရုံ၊ ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံနှင့် ယခုဆိုင်အပါအဝင် ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်(၄)ဆိုင်တို့၏ ငှားရမ်းခနှင့် အမှန်တကယ် လုပ်ငန်းဆောင်ရွက်မှု ကုန်ကျစရိတ်တို့ကို နှုတ်ပယ်၍ ကျန်အကျိုးအမြတ်၏ ၅၁%အား "အငှားချထားခြင်းခံရသူ"မှ "အငှားချ ထားသူ"သို့ ခွဲဝေပေးရမည်။ အကျိုးအမြတ်၏ ၅၁% ခွဲဝေရာတွင် တစ်နှစ်တစ်ကြိမ် ခွဲဝေရမည်။

၇။ အရောင်းဆိုင်၏ (၁)နှစ်ငှားရမ်းခငွေကို "အငှားချထားခြင်းခံရသူ"မှ ငှားရမ်းမှုမစတင်မီ ငှားရမ်းခ (၁၂)လလျှင်တစ်ကြိမ် ရက်သတ္တပတ်(၁)ပတ်အတွင်း ကြိုတင်ပေးသွင်းရမည်။ ငှားရမ်းခကို "အငှားချထားခြင်းခံရသူ"က သတ်မှတ်ထားသည့် ဘဏ်ရှိ ငွေစာရင်းသို့ ငွေသားဖြင့် ပေးသွင်းရမည်။ စာချုပ်လက်မှတ် ရေးထိုးသည့်နေ့ရက်တွင် ငှားရမ်းမှုတန်ဖိုး၏ (၁)လစာအားပထမနှစ်အတွက် စပေါ်ငွေအဖြစ် ထားရှိရမည်။

၈။ အရောင်းဆိုင်၏ (၁)နှစ်ငှားရမ်းခကို သတ်မှတ်နေ့ရက်တွင် ပေးသွင်းရန် ပျက်ကွက်ပါက အဆိုပါ ငှားရမ်းခပေးသွင်းရန်၊ တစ်လနောက်ကျတိုင်း (၁%)ကို သတ်မှတ်ထားသော အရောင်းဆိုင်၏ (၁၂)လ ငှားရမ်းခပေါ်တွင် ဒဏ်ကြေးအဖြစ် ပေးသွင်းရမည်။ နောက်ကျ ရက်လွန်ကြေးကို (၁)လချင်း ရေတွက်ပါမည်။ စုစုပေါင်း ရက်လွန်ကြေးသည် (၅%)ထက်

မကျော်လွန်စေရ။ သတ်မှတ်ချိန် ကျော်လွန်ပြီး တစ်ဆက်စပ်တည်း (၆)လကြာသည်အထိ ငှားရမ်းခ သတ်မှတ်ငွေကို ပေးသွင်းခြင်း မရှိပါက စာချုပ်ကိုရပ်စဲပြီး အရောင်းဆိုင်ကို "အငှားချထားသူ"မှ ပြန်လည် လွှဲပြောင်းရယူမည်။

၉။ အရောင်းဆိုင်၏ (၁)နှစ်ငှားရမ်းခနှုန်းထားကို (၅)နှစ်လျှင်တစ်ကြိမ် နှစ်ဦးနှစ်ဖက် ဈေးနှုန်းညှိနှိုင်း သတ်မှတ်မည်ဖြစ် သည်။

၁၀။ နှစ်စဉ်ငှားရမ်းခသတ်မှတ်ရာတွင် ဒေသပေါက်ဈေးအရ အရောင်းဆိုင်၏ (၁)နှစ် ငှားရမ်းခဈေးနှုန်း တိုးမြှင့်ရန်ရှိပါက၊ အဆိုပါ တိုးမြှင့်လာသည့်ငှားရမ်းခနှုန်းသည် ယခင် ငှားရမ်းခနှုန်း ထား၏ (၂%) မှ (၅%) အတွင်းသာရှိရမည်။ သို့သော်ငှားရမ်းခနှုန်း တိုးမြှင့် ရာတွင် ငွေကြေး ဖောင်းပွမှုနှုန်းထက် လျော့နည်းမှု မရှိစေရ။

## "အငှားချထားခြင်းခံရသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ

၁၁။ "အငှားချထားခြင်းခံရသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(က) နောက်ဆက်တွဲ (ဂ-၁) ပါမြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းကိရိယာ၊ ပုံသေပိုင် ပစ္စည်းများကို စာချုပ်သက်တမ်းအတွင်း ငှားရမ်း၍ စာချုပ်ပါလုပ်ငန်းများကို ဆောင်ရွက်ရမည်။

(ခ) မြေခွန်မှအပ စည်ပင်သာယာခွန်အပါအဝင် ကျန်အခွန်အခအားလုံးကို ကျခံပေး ဆောင်ရမည်။ ပေးဆောင်ပြီးမိတ္တူများကို "အငှားချထားသူ"ထံ တင်ပြထား ရမည်။

(ဂ) လိုအပ်သောလုပ်ငန်းလိုင်စင်များကိုရယူ၍ သက်တမ်းတိုးခြင်း၊ လိုင်စင်ကြေး ပေးချေခြင်းကို တာဝန်ယူဆောင်ရွက်ရမည်။

(ဃ) "အငှားချထားခြင်းခံရသူ"သည် ငှားရမ်းခငွေများကို စာချုပ်ပါစည်းကမ်း ချက်များနှင့်အညီ သတ်မှတ်ချိန်အတွင်း "အငှားချထားသူ"ထံ ပေးသွင်း ရမည်။

(င) အဆောက်အဦများ ပုံစံပြောင်းလဲဆောက်လုပ်ခြင်း၊ တိုးချဲ့ဆောက်လုပ်ခြင်း၊ အသစ်ဆောက်လုပ်ခြင်းနှင့် စက်ပစ္စည်းများတိုးချဲ့ခြင်း၊ အသစ်တပ်ဆင်ခြင်း တို့ကို "အငှားချထားသူ"ထံ ခန့်မှန်းကုန်ကျစရိတ်နှင့်တကွ ကြိုတင်ခွင့်ပြု ချက်တောင်းခံ၍ စာဖြင့် အတည်ပြုချက်ရရှိပြီးမှ ဆောင်ရွက်ရမည်။

(စ) "အငှားချထားခြင်းခံရသူ"သည် အငှားချထားသော ပစ္စည်းများကို ကောင်းမွန် စွာ ထိန်းသိမ်းထားရှိရမည်ဖြစ်ပြီး၊ ပျက်စီးဆုံးရှုံးမှုများရှိပါက "အငှားချထားခြင်း ခံရသူ"၏ ကုန်ကျစရိတ်ဖြင့် ပြင်ဆင်အစားထိုး လဲလှယ် ပေးရမည်။

(ဆ) အငှားချထားသောပစ္စည်းများကို "အငှားချထားခြင်းခံရသူ"မှ အခြားသူ တစ်ဦးဦး (သို့မဟုတ်) အဖွဲ့အစည်းတစ်ခုခုသို့ တစ်ဆင့်ပေါင်နှံခြင်း၊ တစ်ဆင့်ငှားရမ်းခြင်း၊ ရောင်းချခြင်း၊ လွှဲပြောင်းပေးခြင်း လုံးဝမပြုရ။

(ဇ) အငှားချထားသည့် ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်အတွက် အလုံးစုံအာမခံ၊ မီးအာမခံများအပါအဝင်၊ လိုအပ်သည့်အာမခံများ၊ ဥပဒေ၊ နည်းဥပဒေ လုပ်ထုံး လုပ်နည်းများနှင့်အညီ ထားရှိရမည်ဖြစ်ပြီး အာမခံသက်တမ်း ကျော်လွန်မှု မဖြစ်စေရေး တာဝန်ယူ ဆောင်ရွက်ရမည်။

(ဈ) အငှားချထားသည့် ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်တွင် တပ်ဆင်မှုများ၊ ပုံစံ ပြောင်းလဲမှုများနှင့်တိုးချဲ့မှုများသည် ငှားရမ်းခြင်းစာချုပ်ရပ်စဲချိန်တွင် အဖိုးစားနား ပေးရန်မလိုဘဲ "အငှားချထားသူ"ပိုင်ပစ္စည်းများ အလိုအလျှောက် ဖြစ်လာ ရမည်။

(ည) အငှားချထားသည့် ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်အတွက် တည်ဆဲ ဥပဒေများနှင့် မညီညွတ်သောလုပ်ငန်းများမဆောင်ရွက်ရ။ စာချုပ်ပါလုပ်ငန်း များကို ဆောင်ရွက်ရမည်ဖြစ်ပြီး လုပ်ငန်းသစ်ထပ်မံတိုးချဲ့ ဆောင်ရွက်လိုပါက "အငှားချထားသူ"ထံ ကြိုတင်တင်ပြခွင့်ပြုချက်ရယူ ပြီးမှ ဆောင်ရွက် ရမည်။ သို့သော် ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်တွင် ဆလင်ဒါများ၊ မီးဖိုနှင့် အရံပစ္စည်းများ၊ မီးသတ်ဆေးဗူးများ စသော ဆက်စပ်ပစ္စည်း များကို ရောင်းချခြင်း မွမ်းမံပြင်ဆင်ခြင်း များကိုလည်း ဆောင်ရွက်နိုင်သည်။

(ဋ) ထပ်မံဝယ်ယူသည့် မရွှေ့ပြောင်းနိုင်သောပစ္စည်းများနှင့် အငှားချထားသူ၏ မူလပိုင်ဆိုင်သည့် ပစ္စည်းများအား စာချုပ်ရပ်စဲသည့်အချိန်တွင် "အငှားချ ထားသူ" သို့ လက်ရောက်ပြန်လည် လွှဲပြောင်းအပ်နှံရမည်။

(ဌ) "အငှားချထားခြင်းခံရသူ"သည် အပိုဒ်(၅)အရ ငှားရမ်းခကို "အငှားချ ထားသူ" သို့ ပေးဆောင်ရမည်။

(ဃ) ဤစာချုပ်ပါ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်အား စတင်ငှားရမ်းသည့်အချိန်ရှိ ဆိုင်နှင့်ပတ်သက်သည့် ဌာနအလိုက် စာရွက်စာတမ်းများ၊ စာရင်းများကို ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး၏ စာရင်းစစ် အစစ်ဆေးခံနိုင်ရန်နှင့် အခြား လိုအပ်သည်များ ဆောင်ရွက်နိုင်ရန် "အငှားချထားခြင်းခံရသူ"နှင့် ညှိနှိုင်း၍ စနစ်တကျ ထိန်းသိမ်းထားရှိရမည်။

(ဏ) ကုန်သွယ်လုပ်ငန်းခွန်ပင်ရင်းမှ နုတ်ယူပေးသွင်းသည့် ဝင်ငွေခွန် (Withholing Tax) နှင့် တံဆိပ်ခေါင်းခွန်တို့ကို "အငှားချထားခြင်းခံရသူ" မှ တာဝန်ယူ ပေးဆောင်ရမည်။

**"အငှားချထားသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

၁၂။ "အငှားချထားသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) "အငှားချထားခြင်းခံရသူ"အား နောက်ဆက်တွဲ(ဂ-၁)ပါ အငှားချထားသော ပစ္စည်းများကို အသုံးပြုခွင့်ပေးရမည်။

(ခ) "ငှားရမ်းခနှင့်အကျိုးအမြတ်ခွဲဝေမှု"ကို အပိုဒ်(၅)အရ "အငှားချထားခြင်းခံရ သူ"ထံမှ ရပိုင်ခွင့်ရှိသည်။

(ဂ) ရေနံဓာတ်ငွေ့ရည်ဆိုင်တွင် တပ်ဆင်ထားပြီးဖြစ်သော လျှပ်စစ်ဓါတ်အားလိုင်း၊ ရေပိုက်လိုင်း၊ တယ်လီဖုန်းလိုင်းတို့ကို "အငှားချထားခြင်းခံရသူ" အား ဆက်လက် အသုံးပြုခွင့်ပေးရမည်။

(ဃ) အငှားချထားသည့် ရေနံဓာတ်ငွေ့ရည်ဆိုင်များ အခြေအနေကိုလည်းကောင်း၊ ရေနံဓာတ်ငွေ့ရည်များ၏ အရည်အသွေးကိုလည်းကောင်း၊ "အငှားချထားသူ" မှ လုပ်ပိုင်ခွင့် ပေးအပ်ထားသော ကိုယ်စားလှယ်များမှ အခါအားလျော်စွာ စစ်ဆေးနိုင်ခွင့်ရှိသည်။ "အငှားချထားခြင်းခံရသူ"ထံ ကြိုတင် အကြောင်း ကြားပြီး ငှားရမ်းထားသော ဧရိယာများ အတွင်းသို့ ဝင်ထွက်ခွင့်ရှိသည်။

(င) "အငှားချထားသူ"သည် မြေခွန်ကိုပေးဆောင်ရမည်။ အခြားအခွန်အခနှင့် လိုင်စင်ကြေးများအချိန်မီ ပေးဆောင်မှု ရှိ/မရှိ စိစစ်ရမည်။ အာမခံ သက်တမ်းကျော်လွန်မှု ရှိ/မရှိ စိစစ်ထားရမည်။

(စ) စာချုပ်စည်းကမ်း ဖောက်ဖျက်မှုကြောင့်မဟုတ်ဘဲ လုပ်ငန်းရပ်စဲရန် အကြောင်း ကိစ္စပေါ်ပေါက်လာပါက "အငှားချထားခြင်းခံရသူ"၏ ရင်းနှီးမြှုပ်နှံမှုများ နစ်နာမှု မရှိစေရန် နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး စီမံပေးမည်။

(ဆ) စာချုပ်သက်တမ်းကုန်ဆုံးချိန် (သို့မဟုတ်) စာချုပ်ရပ်စဲချိန်တွင် မရွှေ့ပြောင်းနိုင်သော အဆောက်အဦ၊ စက်ပစ္စည်းတိုးချဲ့မှု၊ ပုံစံပြောင်းလဲမှု၊ အသစ်တည်ဆောက်မှုတို့အပါအဝင် မူလအငှားချထားသောပစ္စည်းများကို "အငှားချထားခြင်းခံရသူ"ထံမှ အဖိုးစားနားမပါရှိဘဲ ပြန်လည်လက်ရောက် ရယူခွင့် ရှိသည်။

(ဇ) အငှားချထားသည့်ပစ္စည်းများနှင့်ပတ်သက်၍ ငှားရမ်းမှုမစတင်မီပေးရန်၊ ရရန်စာရင်းများနှင့်လည်းကောင်း၊ ကုန်ချောနှင့်မြေပြင်လက်ကျန်စာရင်းရှိပစ္စည်းသည်လည်းကောင်း "အငှားချထားသူ"နှင့်သာသက်ဆိုင်သည်။

**စာချုပ်အကျိုးသက်ရောက်သည့်နေ့**

၁၃။ စာချုပ်အကျိုးသက်ရောက်သည့်နေ့ကို "အငှားချထားသူ"နှင့် "အငှားချထားခြင်း ခံရသူ" တို့ လက်မှတ်ရေးထိုးပြီးသည့်နောက် ဘဏ်အာမခံ (Performance Bank Guarantee) ပေးသွင်းပြီး သည့်နေ့မှစ၍ သတ်မှတ်ရမည်။

**စာချုပ်သက်တမ်း**

၁၄။ စာချုပ်သက်တမ်းသည် စာချုပ်အကျိုးသက်ရောက်သည့် နေ့မှစ၍ နှစ်(၃၀) ဖြစ်ပါသည်။ "အငှားချထားခြင်းခံရသူ"က စာချုပ်သက်တမ်းမကုန်မီ (၆)လကြိုတင်၍ ဆက်လက်ငှားရမ်းလိုကြောင်းတင်ပြလာလျှင် "အငှားချထားသူ"မှလည်း သဘောတူညီပါက တစ်ကြိမ်လျှင်(၅)နှစ်ဖြင့် နှစ်ကြိမ်သက်တမ်းတိုးမြှင့် ငှားရမ်း ဆောင်ရွက် နိုင်သည်။

**ဝန်ထမ်းရေးရာစည်းကမ်းချက်များ**

၁၅။ ဝန်ထမ်းများနှင့်စပ်လျဉ်း၍ နှစ်ဦးနှစ်ဖက်ဆွေးနွေးညှိနှိုင်းပြီး ဝန်ထမ်းများ၏ ဆန္ဒများရယူပြီး တည်ဆဲနိုင်ငံဝန်ထမ်းဥပဒေ၊ နည်းဥပဒေများနှင့်အညီ ညှိနှိုင်း ဆောင်ရွက်ရမည်ဖြစ်ပြီး အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီး ဌာနမှ သတ်မှတ်ထားသောပုံစံဖြင့် သီးခြားစာချုပ်ချုပ်ဆိုရမည်။ ဝန်ထမ်းရေးရာများအား တည်ဆဲဥပဒေ၊ နည်းဥပဒေများနှင့်အညီ ဆောင်ရွက်ရမည်။

**လုပ်ငန်းဆောင်ရွက်မှု အာမခံနှင့်သက်တမ်း**

၁၆။ "အငှားချထားခြင်းခံရသူ"သည် စာချုပ်လက်မှတ်ရေးထိုးပြီး တစ်လအတွင်း လုပ်ငန်းဆောင်ရွက်မှုအာမခံအဖြစ် စာချုပ်အရ ကျသင့်မည့်အရောင်းဆိုင်၏ တစ်နှစ်ငှားရမ်းခ ငွေပေါ်တွင် (၁၀%)နှင့်ညီမျှသော မြန်မာကျပ်ငွေကို (၅)နှစ်သက်တမ်းရှိ ဘဏ်အာမခံဖြင့်

မြန်မာ့စီးပွားရေးဘဏ်မှတဆင့် "အငှားချထားသူ"ထံ မူရင်းပေးသွင်းရမည်။ စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်ပါက လုပ်ငန်းဆောင်ရွက်မှုအဖြစ် ပေးသွင်းထားသောဘဏ်အာမခံကို "အငှားချထားသူ" မှ သိမ်းယူမည်။

**ဘဏ်အာမခံ၏သက်တမ်း**

၁၇။ ဘဏ်အာမခံ၏သက်တမ်းသည် (၅)နှစ်ဖြစ်ပြီး သက်တမ်းမကုန်ဆုံးမီ တစ်လ အလိုတွင် "အငှားချထားခြင်းခံရသူ"သည် ငှားရမ်းသက်တမ်းကုန်ဆုံးသည်အထိ (၅)နှစ်တစ်ကြိမ် ပြန်လည် တင်သွင်းရမည်။ မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ တည်ဆဲ ဥပဒေများအတိုင်း ဆောင်ရွက်ရပါမည်။

**အငြင်းပွားမှုဖြေရှင်းခြင်း**

၁၈။ ဤစာချုပ်နှင့် စပ်လျဉ်း၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက် ပြေလည်စွာညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်းမရပါကထိုအငြင်းပွားမှုကို ဖြေရှင်းခြင်းသည် ပြည်ထောင်စုလွှတ်တော်ဥပဒေအမှတ် ၅/၂၀၁၆ အရ ပြဋ္ဌာန်းခဲ့သော မြန်မာနိုင်ငံ ၅/၂၀၁၆ အနုညာတ စီရင်ဆုံးဖြတ်ခြင်း ဥပဒေနှင့် နောက်ထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များနှင့်အညီဖြစ်ရမည်။ အနုညာတ စီရင်ဆုံးဖြတ်မည့်နေရာသည် နေပြည်တော် ဖြစ်ရမည်။ အမှုကုန်ကျစရိတ်ကို အမှုရှုံးသူမှကျခံရမည်။

**လျှို့ဝှက်ထိန်းသိမ်းခြင်း**

၁၉။ စာချုပ်ဝင်များသည် စာချုပ်ပါအကြောင်းအရာများကို အတွင်းရေးအဖြစ် လျှို့ဝှက်ထိန်းသိမ်းရမည်။ ၎င်းအကြောင်းအရာများကို အုပ်ချုပ်မှုဆိုင်ရာ စီမံခန့်ခွဲရေးနှင့်တရား စီရင်မှုအရ ထုတ်ဖော် အသိပေးခြင်းမှအပ အခြားထုတ်ဖော်အသိပေးခြင်း မပြုရ။ ဝန်ထမ်းရေးရာကိစ္စရပ်ဆိုင်ရာ အပိုင်းများကိုမူ ဝန်ထမ်းများသို့ အသိပေးရှင်းလင်း ခွင့်ရှိသည်။

**သယံဇာတပစ္စည်းများဆိုင်ရာကိစ္စ**

၂၀။ အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းအတွင်း လုပ်ငန်းဆောင်ရွက်သည့် မြေပေါ်မြေအောက်မှ ဓါတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓာတ်ငွေ့ဆိုင်ရာပစ္စည်းများ၊ သဘာဝ သယံဇာတပစ္စည်းများနှင့် ရှေးဟောင်းပစ္စည်းများတွေ့ရှိလျှင် အငှားချထားသူသို့ ချက်ချင်း အကြောင်းကြားရမည်။ ၎င်းပစ္စည်းများကို "အငှားချထားသူ"ကသာ သက်ဆိုင်ပြီး

“အငှားချထားသူ”နှင့် သက်ဆိုင်ရာအဖွဲ့အစည်းများသည် မည်သည့်အချိန်၌မဆို လွတ်လပ်စွာ တူးဖော်စီမံဆောင်ရွက်ခွင့်ရှိစေရမည်။ ရှေးဟောင်းပစ္စည်းများ မထိခိုက်အောင် ထိန်းသိမ်းစောင့်ရှောက်ရမည်။

**သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းခြင်း**

၂၁။ “အငှားချထားခြင်းခံရသူ”သည် သဘာဝပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအမံ “Environmental Management Plan” ကိုစာချုပ်ချုပ်ဆိုပြီး (၁)နှစ်အတွင်း စတင်ရေးဆွဲ၍ တည်ဆဲဥပဒေ၊ နည်းဥပဒေ ညွှန်ကြားချက်များကို လိုက်နာပြီး သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးကိုအလေးထား စောင့်ရှောက်ရမည်။ ဤလုပ်ငန်းဆောင်ရွက်မှုအတွက် ဖြစ်ပေါ်မည့်ပြဿနာများ၊ ရွှေ့ပြောင်းတပ်ဆင်မှုများကို “အငှားချထားခြင်းခံရသူ”မှ တာဝန်ယူဖြေရှင်းရမည်။

**လုပ်ငန်းခွင်ဘေးအန္တရာယ်ကင်းရှင်းရေး**

၂၂။ “အငှားချထားခြင်းခံရသူ”သည် လုံခြုံရေး၊ လုပ်ငန်းခွင်ကျန်းမာရေး၊ လုပ်ငန်းခွင်ဘေးအန္တရာယ်ကင်းရှင်းရေး၊ အရည်အသွေးထိန်းသိမ်းရေး၊ ရေဘေး၊ လေဘေး၊ မီးဘေး စသော သဘာဝဘေးအန္တရာယ်ကာကွယ်ရေးစီမံချက်များ ရေးဆွဲထားရှိပြီး အဆောက်အဦများ လုံလောက်စွာထားရှိရမည်။ လျှပ်စစ်နှင့်ဘွိုင်လာကို တည်ဆဲဥပဒေ စည်းမျဉ်းစည်းကမ်းများနှင့်အညီ သုံးစွဲမည်။ လုပ်ငန်းခွင်ဘေးအန္တရာယ်ကင်းရှင်းရေးအတွက် သတ်မှတ်ထားသော Safety Precaution များနှင့်အညီ လုပ်ငန်းများကို ဆောင်ရွက် ရမည်။

**မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

၂၃။ စာချုပ်ဝင်တစ်ဦးဦးသည် စာချုပ်ပါတာဝန်များကို ရေဘေး၊ မီးဘေး၊ မြေငလျင် ဘေး၊ ရောဂါကပ်ဘေး၊ လေဘေး၊ အစိုးရ ကန့်သတ်ချက်များ၊ တရားဥပဒေနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည့်တို့နှင့် စာချုပ်ဝင် တစ်ဖက်ဖက်က လိုအပ်သောသတိဝိရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှား နိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး ယင်းမလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ယာယီအားဖြင့် မထမ်းဆောင်နိုင်ခဲ့သော် ယင်းသို့သောအခြေအနေကို အခြားတစ်ဖက် စာချုပ်ဝင်သို့ ရက်ပေါင်း(၆၀)အတွင်း အကြောင်းကြားရမည်။ တစ်ဖက်စာချုပ်ဝင်က လက်ခံလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်သည်။ မလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် ယင်းကာလအတွင်းဖြစ်ပေါ်သော

ကြန့်ကြာမှု၊ ဆုံးရှုံးမှုများကြောင့် မည်သည့်စာချုပ်ဝင်မျှ တာဝန်မရှိစေရ။ ၎င်းဖြစ်ရပ်များသည် (၆)လ ဆက်တိုက် အဆီးအတားဖြစ်နေပါက စာချုပ်ဝင်နှစ်ဖက်သည် ဆွေးနွေးတိုင်ပင်၍ စာချုပ်ပြင်ဆင် ခြင်း၊ ဆိုင်းငံ့ခြင်းဆောင်ရွက်ရမည်။

**စာချုပ်အားပြန်လည်စေ့စပ်ညှိနှိုင်းခြင်း**

၂၄။ ဤသဘောတူစာချုပ်၌ ပါရှိသည့် စည်းကမ်းချက်များသည် လုပ်ငန်းများအမှန်တကယ် အကောင်အထည်ဖော်ဆောင်ရွက်သည့်အခါ မမျှော်မှန်းနိုင်သော အခြေအနေတစ်ရပ်ရပ်ကြောင့် စာချုပ်ပါလုပ်ငန်းများ ဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်လျှင် စာချုပ်ဝင်များသည် နှစ်ဦးနှစ်ဖက် စေ့စပ်ညှိနှိုင်းပြီး စာချုပ်ပါစည်းကမ်းချက်များကို ပြန်လည်စေ့စပ်ညှိနှိုင်း၍ ဆောင်ရွက်ရမည်။

**စာချုပ်အားပြင်ဆင်ဖြည့်စွက်ခြင်း**

၂၅။ စာချုပ်စည်းကမ်းများကိုပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်း၊ ထပ်မံဖြည့်သွင်းခြင်းကို ပြုလုပ်လိုပါက “အငှားချထားသူ”နှင့် “အငှားချထားခြင်းခံရသူ”တို့သည် နှစ်ဦးနှစ်ဖက် တရားဝင်စာဖြင့် သဘောတူညီချက်ဖြင့် လုပ်ထုံးလုပ်နည်းများနှင့်အညီ လျှပ်စစ်နှင့်စွမ်းအင် ဝန်ကြီးဌာနသို့ တင်ပြဆောင်ရွက်ရမည်။

**ပြန်လည်ဝင်ရောက်ခွင့်**

၂၆။ “အငှားချထားခြင်းခံရသူ”သည် ဤသဘောတူစာချုပ်ပါသည့် စည်းကမ်းချက်များကို လိုက်နာရန်ပျက်ကွက်ပါက ထိုသို့ပျက်ကွက်မှုအတွက် “အငှားချထားသူ”က ပေးပို့သော အကြောင်းကြားစာရရှိပြီးနောက် ရက်ပေါင်း(၆၀)အတွင်း ပျက်ကွက်မှုကို ပြန်လည် ပြင်ဆင်ခြင်းမပြုလျှင် “အငှားချထားသူ”သည် ဘဏ်အာမခံငွေကို သိမ်းယူပြီး ငှားရမ်းသည့် စက်ရုံ၊ ဆိုင်၊ မြေ တို့ကို ပြန်လည်ဝင်ရောက်ရယူခွင့်ရှိသည်။ ထို့အပြင် ထိုသို့ ပြန်လည်ဝင်ရောက်ရယူချိန်မှစ၍ စာချုပ်ရပ်စဲရမည်။ ယင်းသို့ဝင်ရောက်၍ တက်ရောက် ရယူသည့် အခွင့်အရေးသည် ဤစာချုပ်ပါ “အငှားချထားသူ”က “အငှားချထားခြင်းခံရသူ” ထံမှရရှိမည့် ငှားရမ်းခနှင့်ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်များကို မထိခိုက် စေရ။

**ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၂၇။ "အငှားချထားခြင်းခံရသူ" ဤစာချုပ်ပါသက်တမ်းကုန်ဆုံးသည့်အခါဖြစ်စေ စာချုပ်ရပ်စဲသည့်အခါဖြစ်စေ မူလငှားရမ်းစာရင်းပါမြေ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများတိုးချဲ့ခြင်း၊ အသစ်တည်ဆောက်ခြင်းပြုလုပ်ထားသည့် မရွှေ့ပြောင်းနိုင်သော ပစ္စည်းနှင့် ပုံသေပိုင်ပစ္စည်းများအားလုံးကို "အငှားချထားသူ"သို့ အဖိုးအနားမပါရှိဘဲ ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လက်ရောက် လွှဲပြောင်းပေးအပ်ရမည်။ အကယ်၍ စာချုပ်သက်တမ်းအတွင်း မလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် ပျက်စီးဆုံးရှုံးမှုများရှိပါက နှစ်ဦးနှစ်ဖက်ပါဝင်သောအဖွဲ့ဖြင့် စိစစ်၍ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ နှင့်အညီ စာရင်းမှပယ်ဖျက်ခြင်းကို ဆောင်ရွက်ရမည်။

**စာချုပ်ရပ်စဲခြင်း**

၂၈။ ဤစာချုပ်၏ အောက်ပါအကြောင်းကိစ္စများ ဖြစ်ပေါ်လာပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခွင့်ပြုချက်ရယူ၍ စာချုပ်ကိုရပ်စဲနိုင်သည် -

(က) စာချုပ်သက်တမ်းကုန်ဆုံးခြင်း၊

(ခ) လုပ်ငန်းကို ဆက်လက်လုပ်ကိုင်ရန် မဖြစ်နိုင်သည့် အခြေအနေတစ်ခုခု ဖြစ်လျှင် နှစ်ဦး သဘောတူစာချုပ်ကို ရပ်စဲခြင်း၊

(ဂ) စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို "အငှားချထားခြင်းခံရသူ"မှဖောက်ဖျက်ကျူးလွန်ခြင်း၊

(ဃ) "အငှားချထားခြင်းခံရသူ"က လူမွဲအဖြစ်ခံယူခြင်း၊

(င) မလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် အငှားချထားသည့် ပစ္စည်းပျက်စီး ဆုံးရှုံးပြီး လုပ်ငန်းဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်တော့ခြင်း၊

၂၉။ စာချုပ်ရပ်စဲခြင်းသည် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်မှ စာချုပ်ပါတာဝန်ရှိသူများကို အကြောင်းကြား၍ညှိနှိုင်းပြီး ပြီးပြတ်အောင်ရှင်းလင်းပြီးမှသာ ရပ်စဲခြင်းပြီးမြောက်မည်။

၃၀။ စာချုပ်ရပ်စဲပြီးနောက် စာချုပ်ပါငှားရမ်းပစ္စည်းအားလုံးကို "အငှားချထားသူ"၏ လက်ဝယ် သို့ပြန်လည်အပ်နှံရမည်။

**ကြိုတင်စည်းကမ်းသတ်မှတ်ချက်**

၃၁။ အောက်ဖော်ပြပါ သတ်မှတ်ချက်(၃)ချက် ပြီးပြည့်စုံ၍ စာချုပ်ဝင်တစ်ဦးပေါ်တစ်ဦး စာချုပ်ပါ အချက်အလက်များအရ နှောင်ဖွဲ့တာဝန်ရှိစေရမည် -

(က) ဤစာချုပ်ကို "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ" တို့၏ ခွင့်ပြုချက်ရရှိထားသော ကိုယ်စားလှယ်များက နည်းလမ်းတစ်ကျ လက်မှတ်ရေးထိုးခြင်း၊ တံဆိပ်ခတ်နှိပ်ခြင်း၊ တစ်ဦးနှင့်တစ်ဦး စာချုပ် ပေးကမ်းလဲလှယ်ခြင်း။

(ခ) စာချုပ်နှင့်ပတ်သက်၍ ပြည်ထောင်စုအစိုးရ၏ ခွင့်ပြုချက်ရရှိပြီးခြင်း။

(ဂ) ဘဏ်အာမခံပေးသွင်းပြီးခြင်း။

၃၂။ ဤစာချုပ်ပါမြေပုံနှင့် နောက်ဆက်တွဲများသည် ငှားရမ်းခြင်း၊ အကျိုးအမြတ်ခွဲဝေခြင်း သဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်သည်။

အထက်ဖော်ပြပါ စည်းကမ်းချက်များကို သဘောတူလက်ခံပါရန် အောက်ပါ သက်သေများ ရှေ့မှောက်တွင် ခွင့်ပြုချက်ရရှိထားသော အောက်ဖော်ပြပါ ပုဂ္ဂိုလ်များက ၂၀၁၇ ခုနှစ်၊ လ၊ ( ) ရက်နေ့တွင် နေပြည်တော်၊ …………….. ၌ အတည်ပြုလက်မှတ်ရေးထိုးကြသည်။

| | |
|---|---|
| အငှားချထားသူ (ကိုယ်စား) | အငှားချထားခြင်းခံရသူ(ကိုယ်စား) |
| ဦးသန့်စင် | ဦးရဲဝင်း |
| ဦးဆောင်ညွှန်ကြားရေးမှူး | မန်နေးဂျင်းဒါရိုက်တာ |
| မြန်မာ့ရေနံနှင့်ဓာတုဗေဒလုပ်ငန်း | ရတနာစုကုမ္ပဏီလီမိတက် |

အသိသက်သေ

| | |
|---|---|
| ------------------ | ------------------ |
| ------------------ | ------------------ |
| ------------------ | ------------------ |

နောက်ဆက်တွဲ(င)

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း

နှင့်

ရတနာစုကုမ္ပဏီလီမိတက်

တို့အကြား

ရေနံဓါတ်ငွေ့ရည်အရောင်းဆိုင်(မော်ဘီ)ငှားရမ်းခြင်းအတွက်

နောက်ဆက်တွဲ သဘောတူစာချုပ်

စာချုပ်အမှတ်( )/

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ လ၊ ရက် နေပြည်တော်

# လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

# မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း

# နှင့်

# ရတနာစုကုမ္ပဏီလီမိတက်

# တို့အကြား

# ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(မော်ဘီ)ငှားရမ်းခြင်းအတွက်

# နောက်ဆက်တွဲ သဘောတူစာချုပ်

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း ကြီးကြပ်မှုအောက်ရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(မော်ဘီ)ငှားရမ်းခြင်းဆောင်ရွက်ရန်( .၂၀၁၇) ရက်နေ့က ကျင်းပသော ပြည်ထောင်စုအစိုးရ အဖွဲ့ရုံး၏ အစည်းအဝေးအမှတ်စဉ် ( ) ခွင့်ပြုချက်အရ ရတနာစုကုမ္ပဏီလီမိတက်နှင့် သဘောတူစာချုပ် ချုပ်ဆိုခြင်းဖြစ်ပါသည်။

ဤငှားရမ်းခြင်း သဘောတူစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ နေပြည်တော်တွင် ၂၀၁၇ ခုနှစ်၊ လ၊ ( )ရက်နေ့၌ ဦးသန့်စင် ဦးဆောင်ညွှန်ကြားရေးမှူး၊ "မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း" လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန ကိုယ်စားပြုသော (ဤမှ နောင်တွင် "အငှားချထားသူ" ဟု ရည်ညွှန်းခေါ်ဆိုမည် ဖြစ်ပြီး ယင်းဖော်ပြချက်၏ စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်သည်)က တစ်ဖက် နှင့် မန်နေးဂျင်းဒါရိုက်တာ ဦးရဲဝင်း၊ နိုင်ငံသားစိစစ်ရေးကဒ်ပြား အမှတ် (၁၂/ကခက(နိုင်)၀၀၀၀၂၁) ကိုယ်စား ပြုသော ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော် ကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းထားသည့် ရတနာစုကုမ္ပဏီလီမိတက်၊ ရန်ကုန်တိုင်း ဒေသကြီး၊ လှိုင်မြို့နယ်၊ (၂)ရပ်ကွက်၊ သီရိ(၃)လမ်း၊ ခြံအမှတ်(၁) (ဤမှနောင်တွင် "အငှားချထားခြင်းခံရသူ"ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ပြီး

ယင်းဖော်ပြချက်၏ စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်ပါသည်)က အခြားတစ်ဖက်တို့သည် အောက်ပါ အတိုင်း စာချုပ် ချုပ်ဆို ကြပါသည်။

## ရည်ရွယ်ချက်

၁။ "အငှားချထားသူ" ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး၊ အမှတ်(၅၈၂)၊ မြို့မ(၄)ရပ်ကွက်၊ မှော်ဘီမြို့နယ်ရှိ ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်တွင် "အငှားချထားခြင်းခံရသူ"မှ ချက်လုပ်၊ ဝယ်ယူ၊ တင်သွင်းမည့် ရေနံဓာတ်ငွေ့ရည်များ ဖြန့်ဖြူးရောင်းချခြင်းအား ဆောင်ရွက်နိုင်ရန် ရည်ရွယ်လျက် ဤစာချုပ်ကို နှစ်ဖက်သဘောတူ ချုပ်ဆိုခြင်းဖြစ်ပါသည်။

## အဓိပ္ပါယ်ဖွင့်ဆိုခြင်း

၂။ စာချုပ်ပါစကားရပ်များကို အောက်ပါအတိုင်း အဓိပ္ပါယ်ဖွင့်ဆိုပါသည် -

(က) "အငှားချထားသူ" ဆိုသည်မှာ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော "မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း" လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနကို ဆိုလိုပါသည်။ ယင်းဖော်ပြချက်၏ စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင် ကွဲလွဲခြင်းမရှိပါက ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။

(ခ) "အငှားချထားခြင်းခံရသူ"ဆိုသည်မှာ မန်နေးဂျင်းဒါရိုက်တာ ဦးရဲဝင်း၊ နိုင်ငံသားစိစစ်ရေးကဒ်ပြားအမှတ်(၁၂/ကခက(နိုင်)၀၀၀၀၂၁) ကိုယ်စားပြုသော "ရတနာစုကုမ္ပဏီလီမိတက်" ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ (၂)ရပ်ကွက်၊ သီရိ(၃)လမ်း၊ ခြံအမှတ်(၁)ကို ဆိုလိုပါသည်။ ယင်းဖော်ပြချက်၏ စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက် ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ် များနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများပါဝင်သည်။

(ဂ) "စာချုပ်"ဆိုသည်မှာ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒ လုပ်ငန်းနှင့် ရတနာစုကုမ္ပဏီလီမိတက်တို့အကြား ကျွန်းချောင်းရေနံဓါတ်

ငွေ့ရည်စက်ရုံကို ညောင်တုန်းရေနံဓာတ်ငွေ့ရည် စက်ရုံမြေနေရာသို့ ပြောင်းရွှေ့ တပ်ဆင်၍ ဌာနပိုင်မြေနှင့်တကွ စက်ရုံ(၂)ရုံကိုငှားရမ်းခြင်း၊ စက်ရုံလည်ပတ် ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးရောင်းချခြင်းနှင့် အမြတ်ခွဲဝေမှု သဘောတူ စာချုပ်၏ နောက်ဆက်တွဲဖြစ်သော ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင် (မှော်ဘီ) မြေနေရာနှင့် မြေပေါ်ရှိ အဆောက်အဦနှင့် စက်ပစ္စည်းများအား ငှားရမ်း၍ ရေနံဓာတ်ငွေ့ရည် ဖြန့်ဖြူးရောင်းချရန်အတွက် ဤသဘောတူစာချုပ်နှင့် နောက်ဆက်တွဲ စာရွက် စာတမ်းများအားလုံးကို ဆိုလိုသည်။

(ဃ) “ရေနံဓာတ်ငွေ့ရည် (Liquefied Petroleum Gas - LPG)”ဆိုသည်မှာ ပရိုပိန်း ($C_3$)၊ ဗြူတိန်း ($C_4$)၊ ပရိုပိန်းနှင့် ဗြူတိန်းအရောတို့ကို ဆိုလိုသည်။

(င) “နက်ဖ်သာ”ဆိုသည်မှာ ရေနံဓာတ်ငွေ့ရည်စက်ရုံများတွင် သဘာဝဓာတ်ငွေ့ မှ ရေနံဓာတ်ငွေ့ရည်ထုတ်လုပ်ရာတွင် ရေနံဓာတ်ငွေ့ရည်နှင့်အတူ ပူးတွဲ ထွက်ရှိ သည့် ပစ္စည်းတစ်မျိုးကို ဆိုလိုသည်။

(စ) “ဝန်ထမ်း”ဆိုသည်မှာ ငှားရမ်းဆိုင်တွင် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းမှ တရားဝင်ခန့်ထားသော အမြဲတမ်းဝန်ထမ်း များကို ဆိုလိုသည်။

(ဆ) “ကူးပြောင်းဝန်ထမ်း”ဆိုသည်မှာ “အငှားချထားခြင်းခံရသူ”သို့ “အငှားချ ထားသူ” မှ အပြီးကူးပြောင်းပေးမည့် ဝန်ထမ်းများကို ဆိုလိုသည်။

**အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း**

၃။ “အငှားချထားသူ”သည် နောက်ဆက်တွဲ (ဃ-၁)တွင် အသေးစိတ်ဖော်ပြထားသော မြေ၊ အဆောက်အဦများ၊ စက်ပစ္စည်းကိရိယာများနှင့် အခြားပုံသေပိုင်ပစ္စည်းများကို ပိုင်ဆိုင် သူဖြစ်ပြီး “အငှားချထားခြင်းခံရသူ”သည် စာချုပ်ကို အကောင်အထည်ဖော်ရန် ငွေကြေး ပြည့်စုံပြီး စာချုပ်ပါလုပ်ငန်းကို သတ်မှတ်ချက်များအတိုင်း လုပ်ပိုင်ခွင့်ရှိသူဖြစ်ပါသည်။ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူများသည် ဤစာချုပ်ကို လက်မှတ်ရေးထိုးရန် အခွင့်အာဏာရှိသူများဖြစ်ကြောင်းကို အသီးသီးအာမခံ ကြပါသည်။



**အငှားချထားမည့်ပစ္စည်းများ**

၄။ "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ"ပိုင် ရန်ကုန်တိုင်းဒေသကြီး၊ အမှတ်(၅၈၂)၊ မြို့မ(၄)ရပ်ကွက်၊မှော်ဘီမြို့နယ်ရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင် မြေအကျယ် ၁.၁၆၈ဧက အတွင်းရှိ နောက်ဆက်တွဲ(ဃ-၁)ပါ အဆောက်အဦများနှင့် စက်ပစ္စည်းများ ဖြစ်ပါသည်။

## ငှားရမ်းခ

၅။ "အငှားချထားခြင်းခံရသူ"မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်ရှိ ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်အား တစ်နှစ်လျှင် ကျပ်(၂၀,၀၀၀,၀၀၀) (ကျပ်သန်းနှစ်ဆယ် တိတိ)ဖြင့် ငှားရမ်းမည် ဖြစ်ပါသည်။

## အမြတ်ခွဲဝေမှု

၆။ ရေနံဓာတ်ငွေ့ရည် သိုလှောင်၊ တင်သွင်း၊ ဖြန့်ဖြူး၊ ရောင်းချခြင်းလုပ်ငန်းမှ ရရှိသည့် အကျိုးအမြတ်မှ ကျွန်းချောင်းရေနံဓာတ်ငွေ့ရည်စက်ရုံ၊ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံနှင့် ယခုဆိုင်အပါအဝင် ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်(၄)ဆိုင်တို့၏ ငှားရမ်းခနှင့် အမှန်တကယ် လုပ်ငန်းဆောင်ရွက်မှု ကုန်ကျစရိတ်တို့ကို နုတ်ပယ်၍ ကျန်အကျိုးအမြတ်၏ ၅၁%အား "အငှားချထားခြင်းခံရသူ"မှ "အငှားချထားသူ"သို့ ခွဲဝေပေးရမည်။ အကျိုးအမြတ်၏ ၅၁% ခွဲဝေရာတွင် တစ်နှစ်တစ်ကြိမ် ခွဲဝေရမည်။

၇။ အရောင်းဆိုင်၏(၁)နှစ်ငှားရမ်းခငွေကို "အငှားချထားခြင်းခံရသူ"မှ ငှားရမ်းမှု မစတင်မီ ငှားရမ်းခ (၁၂)လလျှင်တစ်ကြိမ် ရက်သတ္တပတ်(၁)ပတ်အတွင်း ကြိုတင် ပေးသွင်းရမည်။ ငှားရမ်းခကို "အငှားချထားခြင်းခံရသူ"က သတ်မှတ်ထားသည့် ဘဏ်ရှိ ငွေစာရင်းသို့ ငွေသားဖြင့် ပေးသွင်းရမည်။ စာချုပ်လက်မှတ် ရေးထိုးသည့်နေ့ရက်တွင် ငှားရမ်းမှုတန်ဖိုး၏ (၁)လစာအားပထမနှစ်အတွက် စပေါ်ငွေအဖြစ် ထားရှိရမည်။

၈။ အရောင်းဆိုင်၏(၁)နှစ်ငှားရမ်းခကို သတ်မှတ်နေ့ရက်တွင် ပေးသွင်းရန်ပျက်ကွက်ပါက အဆိုပါ ငှားရမ်းခပေးသွင်းရန်၊ တစ်လနောက်ကျတိုင်း (၁%)ကို သတ်မှတ်ထားသော အရောင်းဆိုင်၏ (၁၂)လ ငှားရမ်းခပေါ်တွင် ဒဏ်ကြေးအဖြစ် ပေးသွင်းရမည်။ နောက်ကျ ရက်လွန်ကြေးကို (၁)လချင်း ရေတွက်ပါမည်။ စုစုပေါင်းရက်လွန်ကြေးသည် (၅%)ထက်

မကျော်လွန်စေရ။ သတ်မှတ်ချိန် ကျော်လွန်ပြီး တစ်ဆက်စပ်တည်း (၆)လကြာသည်အထိ ငှားရမ်းခ သတ်မှတ်ငွေကို ပေးသွင်းခြင်း မရှိပါက စာချုပ်ကိုရပ်စဲပြီး အရောင်းဆိုင်ကို "အငှားချထားသူ"မှ ပြန်လည် လွှဲပြောင်းရယူမည်။

၉။ အရောင်းဆိုင်၏(၁)နှစ်ငှားရမ်းခနှုန်းထားကို (၅)နှစ်လျှင်တစ်ကြိမ် နှစ်ဦးနှစ်ဖက် ဈေးနှုန်းညှိနှိုင်း သတ်မှတ်မည်ဖြစ် သည်။

၁၀။ နှစ်စဉ်ငှားရမ်းခသတ်မှတ်ရာတွင် ဒေသပေါက်ဈေးအရ အရောင်းဆိုင်၏(၁)နှစ် ငှားရမ်းခဈေးနှုန်း တိုးမြှင့်ရန်ရှိပါက၊ အဆိုပါ တိုးမြှင့်လာသည့်ငှားရမ်းခနှုန်းသည် ယခင် ငှားရမ်းခနှုန်း ထား၏ (၂%) မှ (၅%) အတွင်းသာရှိရမည်။ သို့သော်ငှားရမ်းခနှုန်း တိုးမြှင့် ရာတွင် ငွေကြေး ဖောင်းပွမှုနှုန်းထက် လျော့နည်းမှု မရှိစေရ။

## "အငှားချထားခြင်းခံရသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ

၁၁။ "အငှားချထားခြင်းခံရသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(က) နောက်ဆက်တွဲ (ဃ-၁) ပါမြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းကိရိယာ၊ ပုံသေပိုင် ပစ္စည်းများကို စာချုပ်သက်တမ်းအတွင်း ငှားရမ်း၍ စာချုပ်ပါလုပ်ငန်းများကို ဆောင်ရွက်ရမည်။

(ခ) မြေခွန်မှအပ စည်ပင်သာယာခွန်အပါအဝင် ကျန်အခွန်အခအားလုံးကို ကျခံပေး ဆောင်ရမည်။ ပေးဆောင်ပြီးမိတ္တူများကို "အငှားချထားသူ"ထံ တင်ပြထား ရမည်။

(ဂ) လိုအပ်သောလုပ်ငန်းလိုင်စင်များကိုရယူ၍ သက်တမ်းတိုးခြင်း၊ လိုင်စင်ကြေး ပေးချေခြင်းကို တာဝန်ယူဆောင်ရွက်ရမည်။

(ဃ) "အငှားချထားခြင်းခံရသူ"သည် ငှားရမ်းခငွေများကို စာချုပ်ပါစည်းကမ်း ချက်များနှင့်အညီ သတ်မှတ်ချိန်အတွင်း "အငှားချထားသူ"ထံ ပေးသွင်း ရမည်။

(င) အဆောက်အဦများ ပုံစံပြောင်းလဲဆောက်လုပ်ခြင်း၊ တိုးချဲ့ဆောက်လုပ်ခြင်း၊ အသစ်ဆောက်လုပ်ခြင်းနှင့် စက်ပစ္စည်းများတိုးချဲ့ခြင်း၊ အသစ်တပ်ဆင်ခြင်း တို့ကို "အငှားချထားသူ"ထံ ခန့်မှန်းကုန်ကျစရိတ်နှင့်တကွ ကြိုတင်ခွင့်ပြု ချက်တောင်းခံ၍ စာဖြင့် အတည်ပြုချက်ရရှိပြီးမှ ဆောင်ရွက်ရမည်။

(စ) "အငှားချထားခြင်းခံရသူ"သည် အငှားချထားသော ပစ္စည်းများကို ကောင်းမွန်စွာ ထိန်းသိမ်းထားရှိရမည်ဖြစ်ပြီး၊ ပျက်စီးဆုံးရှုံးမှုများရှိပါက "အငှားချထားခြင်းခံရသူ"၏ ကုန်ကျစရိတ်ဖြင့် ပြင်ဆင်အစားထိုး လဲလှယ် ပေးရမည်။

(ဆ) အငှားချထားသောပစ္စည်းများကို "အငှားချထားခြင်းခံရသူ"မှ အခြားသူတစ်ဦးဦး (သို့မဟုတ်) အဖွဲ့အစည်းတစ်ခုခုသို့ တစ်ဆင့်ပေါင်နှံခြင်း၊ တစ်ဆင့်ငှားရမ်းခြင်း၊ ရောင်းချခြင်း၊ လွှဲပြောင်းပေးခြင်း လုံးဝမပြုရ။

(ဇ) အငှားချထားသည့် ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်အတွက် အလုံးစုံအာမခံ၊ မီးအာမခံများအပါအဝင်၊ လိုအပ်သည့်အာမခံများ၊ ဥပဒေ၊ နည်းဥပဒေ လုပ်ထုံးလုပ်နည်းများနှင့်အညီ ထားရှိရမည်ဖြစ်ပြီး အာမခံသက်တမ်း ကျော်လွန်မှုမဖြစ်စေရေး တာဝန်ယူ ဆောင်ရွက်ရမည်။

(ည) အငှားချထားသည့် ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်တွင် တပ်ဆင်မှုများ၊ ပုံစံပြောင်းလဲမှုများနှင့်တိုးချဲ့မှုများသည် ငှားရမ်းခြင်းစာချုပ်ရပ်စဲချိန်တွင် အဖိုးစားနားပေးရန်မလိုဘဲ "အငှားချထားသူ"ပိုင်ပစ္စည်းများ အလိုအလျောက် ဖြစ်လာရမည်။

(ဋ) အငှားချထားသည့် ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်အတွက် တည်ဆဲဥပဒေများနှင့် မညီညွတ်သောလုပ်ငန်းများမဆောင်ရွက်ရ။ စာချုပ်ပါလုပ်ငန်းများကို ဆောင်ရွက်ရမည်ဖြစ်ပြီး လုပ်ငန်းသစ်ထပ်မံတိုးချဲ့ ဆောင်ရွက်လိုပါက "အငှားချထားသူ"ထံ ကြိုတင်တင်ပြခွင့်ပြုချက်ရယူ ပြီးမှ ဆောင်ရွက်ရမည်။ သို့သော် ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်တွင် ဆလင်ဒါများ၊ မီးဖိုနှင့် အရံပစ္စည်းများ၊ မီးသတ်ဆေးဘူးများ စသော ဆက်စပ်ပစ္စည်း များကို ရောင်းချခြင်း မွမ်းမံပြင်ဆင်ခြင်း များကိုလည်း ဆောင်ရွက်နိုင်သည်။

(ဌ) ထပ်မံဝယ်ယူသည့် မရွှေ့ပြောင်းနိုင်သောပစ္စည်းများနှင့် အငှားချထားသူ၏ မူလပိုင်ဆိုင်သည့် ပစ္စည်းများအား စာချုပ်ရပ်စဲသည့်အချိန်တွင် "အငှားချထားသူ" သို့ လက်ရောက်ပြန်လည် လွှဲပြောင်းအပ်နှံရမည်။

(ဍ) "အငှားချထားခြင်းခံရသူ"သည် အပိုဒ်(၅)အရ ငှားရမ်းခကို "အငှားချထားသူ " သို့ ပေးဆောင်ရမည်။

(ဃ) ဤစာချုပ်ပါ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်အား စတင်ငှားရမ်းသည့်အချိန်ရှိ ဆိုင်နှင့်ပတ်သက်သည့် ဌာနအလိုက် စာရွက်စာတမ်းများ၊ စာရင်းများကို ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး၏ စာရင်းစစ် အစစ်ဆေးခံနိုင်ရန်နှင့် အခြား လိုအပ်သည်များ ဆောင်ရွက်နိုင်ရန် "အငှားချထားခြင်းခံရသူ"နှင့် ညှိနှိုင်း၍ စနစ်တကျ ထိန်းသိမ်းထားရှိရမည်။

(ဏ) ကုန်သွယ်လုပ်ငန်းခွန်ပင်ရင်းမှ နုတ်ယူပေးသွင်းသည့် ဝင်ငွေခွန် (Withholing Tax) နှင့် တံဆိပ်ခေါင်းခွန်တို့ကို "အငှားချထားခြင်းခံရသူ" မှ တာဝန်ယူ ပေးဆောင်ရမည်။

## "အငှားချထားသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ

၁၂။ "အငှားချထားသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) "အငှားချထားခြင်းခံရသူ"အား နောက်ဆက်တွဲ(ဃ-၁)ပါ အငှားချထားသော ပစ္စည်းများကို အသုံးပြုခွင့်ပေးရမည်။

(ခ) "ငှားရမ်းခနှင့်အကျိုးအမြတ်ခွဲဝေမှု"ကို အပိုဒ်(၅)အရ "အငှားချထားခြင်းခံရ သူ"ထံ မှ ရပိုင်ခွင့်ရှိသည်။

(ဂ) ရေနံဓာတ်ငွေ့ရည်ဆိုင်တွင် တပ်ဆင်ထားပြီးဖြစ်သော လျှပ်စစ်ဓါတ်အားလိုင်း၊ ရေပိုက်လိုင်း၊ တယ်လီဖုန်းလိုင်းတို့ကို "အငှားချထားခြင်းခံရသူ" အား ဆက်လက် အသုံးပြုခွင့်ပေးရမည်။

(ဃ) အငှားချထားသည့် ရေနံဓာတ်ငွေ့ရည်ဆိုင်များ အခြေအနေကိုလည်းကောင်း၊ ရေနံဓာတ်ငွေ့ရည်များ၏ အရည်အသွေးကိုလည်းကောင်း၊ "အငှားချထားသူ" မှ လုပ်ပိုင်ခွင့် ပေးအပ်ထားသော ကိုယ်စားလှယ်များမှ အခါအားလျော်စွာ စစ်ဆေးနိုင်ခွင့်ရှိသည်။ "အငှားချထားခြင်းခံရသူ"ထံ ကြိုတင် အကြောင်း ကြားပြီး ငှားရမ်းထားသော ဧရိယာများ အတွင်းသို့ ဝင်ထွက်ခွင့်ရှိသည်။

(င) "အငှားချထားသူ"သည် မြေခွန်ကိုပေးဆောင်ရမည်။ အခြားအခွန်အခနှင့် လိုင်စင်ကြေးများအချိန်မီ ပေးဆောင်မှု ရှိ/မရှိ စိစစ်ရမည်။ အာမခံ သက်တမ်းကျော်လွန်မှု ရှိ/မရှိ စိစစ်ထားရမည်။

(စ) စာချုပ်စည်းကမ်း ဖောက်ဖျက်မှုကြောင့်မဟုတ်ဘဲ လုပ်ငန်းရပ်စဲရန် အကြောင်း ကိစ္စပေါ်ပေါက်လာပါက "အငှားချထားခြင်းခံရသူ"၏ ရင်းနှီးမြှုပ်နှံမှုများ နစ်နာမှု မရှိစေရန် နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး စီမံပေးမည်။

(ဆ) စာချုပ်သက်တမ်းကုန်ဆုံးချိန် (သို့မဟုတ်) စာချုပ်ရပ်စဲချိန်တွင် မရွှေ့ပြောင်းနိုင်သော အဆောက်အဦ၊ စက်ပစ္စည်းတိုးချဲ့မှု၊ ပုံစံပြောင်းလဲမှု၊ အသစ်တည်ဆောက်မှုတို့အပါအဝင် မူလအငှားချထားသောပစ္စည်းများကို "အငှားချထားခြင်းခံရသူ"ထံမှ အဖိုးစားနားမပါရှိဘဲ ပြန်လည်လက်ရောက် ရယူခွင့် ရှိသည်။

(ဇ) အငှားချထားသည့်ပစ္စည်းများနှင့်ပတ်သက်၍ ငှားရမ်းမှုမစတင်မီပေးရန်၊ ရရန်စာရင်းများနှင့်လည်းကောင်း၊ ကုန်ချောနှင့်မြေပြင်လက်ကျန်စာရင်းရှိပစ္စည်းသည်လည်းကောင်း "အငှားချထားသူ"နှင့်သာသက်ဆိုင်သည်။

**စာချုပ်အကျိုးသက်ရောက်သည့်နေ့**

၁၃။ စာချုပ်အကျိုးသက်ရောက်သည့်နေ့ကို "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ" တို့ လက်မှတ်ရေးထိုးပြီးသည့်နောက် ဘဏ်အာမခံ (Performance Bank Guarantee) ပေးသွင်းပြီး သည့်နေ့မှစ၍ သတ်မှတ်ရမည်။

**စာချုပ်သက်တမ်း**

၁၄။ စာချုပ်သက်တမ်းသည် စာချုပ်အကျိုးသက်ရောက်သည့် နေ့မှစ၍ နှစ်(၃၀) ဖြစ်ပါသည်။ "အငှားချထားခြင်းခံရသူ"က စာချုပ်သက်တမ်းမကုန်မီ (၆)လကြိုတင်၍ ဆက်လက်ငှားရမ်း လိုကြောင်းတင်ပြလာလျှင် "အငှားချထားသူ"မှလည်း သဘောတူညီပါက တစ်ကြိမ်လျှင်(၅)နှစ်ဖြင့် နှစ်ကြိမ်သက်တမ်းတိုးမြှင့် ငှားရမ်း ဆောင်ရွက် နိုင်သည်။

**ဝန်ထမ်းရေးရာစည်းကမ်းချက်များ**

၁၅။ ဝန်ထမ်းများနှင့်စပ်လျဉ်း၍ နှစ်ဦးနှစ်ဖက်ဆွေးနွေးညှိနှိုင်းပြီး ဝန်ထမ်းများ၏ ဆန္ဒများရယူပြီး တည်ဆဲနိုင်ငံဝန်ထမ်းဥပဒေ၊ နည်းဥပဒေများနှင့်အညီ ညှိနှိုင်း ဆောင်ရွက်ရမည်ဖြစ်ပြီး အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီး ဌာနမှ သတ်မှတ်ထားသောပုံစံဖြင့် သီးခြားစာချုပ်ချုပ်ဆိုရမည်။ ဝန်ထမ်းရေးရာများအား တည်ဆဲဥပဒေ၊ နည်းဥပဒေများနှင့်အညီ ဆောင်ရွက်ရမည်။

**လုပ်ငန်းဆောင်ရွက်မှု အာမခံနှင့်သက်တမ်း**

၁၆။ "အငှားချထားခြင်းခံရသူ"သည် စာချုပ်လက်မှတ်ရေးထိုးပြီး တစ်လအတွင်း လုပ်ငန်းဆောင်ရွက်မှုအာမခံအဖြစ် စာချုပ်အရ ကျသင့်မည့်အရောင်းဆိုင်၏ တစ်နှစ်ငှားရမ်းခငွေပေါ်တွင် (၁၀%)နှင့်ညီမျှသော မြန်မာကျပ်ငွေကို (၅)နှစ်သက်တမ်းရှိ ဘဏ်အာမခံဖြင့်

မြန်မာ့စီးပွားရေးဘဏ်မှတဆင့် "အငှားချထားသူ"ထံ မူရင်းပေးသွင်းရမည်။ စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်ပါက လုပ်ငန်းဆောင်ရွက်မှုအဖြစ် ပေးသွင်းထားသောဘဏ်အာမခံကို "အငှားချထားသူ" မှ သိမ်းယူမည်။

**ဘဏ်အာမခံ၏သက်တမ်း**

၁၇။ ဘဏ်အာမခံ၏သက်တမ်းသည် (၅)နှစ်ဖြစ်ပြီး သက်တမ်းမကုန်ဆုံးမီ တစ်လ အလိုတွင် "အငှားချထားခြင်းခံရသူ"သည် ငှားရမ်းသက်တမ်းကုန်ဆုံးသည်အထိ (၅)နှစ်တစ်ကြိမ် ပြန်လည် တင်သွင်းရမည်။ မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ တည်ဆဲ ဥပဒေများအတိုင်း ဆောင်ရွက်ရပါမည်။

**အငြင်းပွားမှုဖြေရှင်းခြင်း**

၁၈။ ဤစာချုပ်နှင့် စပ်လျဉ်း၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက် ပြေလည်စွာညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်းမရပါကထိုအငြင်းပွားမှုကို ဖြေရှင်းခြင်းသည် ပြည်ထောင်စုလွှတ်တော်ဥပဒေအမှတ် ၅/၂၀၁၆ အရ ပြဋ္ဌာန်းခဲ့သော မြန်မာနိုင်ငံ ၅/၂၀၁၆ အနုညာတ စီရင်ဆုံးဖြတ်ခြင်း ဥပဒေနှင့် နောက်ထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက် များနှင့်အညီဖြစ်ရမည်။ အနုညာတ စီရင်ဆုံးဖြတ်မည့်နေရာသည် နေပြည်တော် ဖြစ်ရမည်။ အမှုကုန်ကျစရိတ်ကို အမှုရှုံးသူမှကျခံရမည်။

**လျှို့ဝှက်ထိန်းသိမ်းခြင်း**

၁၉။ စာချုပ်ဝင်များသည် စာချုပ်ပါအကြောင်းအရာများကို အတွင်းရေးအဖြစ် လျှို့ဝှက်ထိန်းသိမ်းရမည်။ ၎င်းအကြောင်းအရာများကို အုပ်ချုပ်မှုဆိုင်ရာ စီမံခန့်ခွဲရေးနှင့်တရားစီရင်မှုအရ ထုတ်ဖော် အသိပေးခြင်းမှအပ အခြားထုတ်ဖော်အသိပေးခြင်း မပြုရ။ ဝန်ထမ်းရေးရာကိစ္စရပ်ဆိုင်ရာ အပိုင်းများကိုမူ ဝန်ထမ်းများသို့ အသိပေးရှင်းလင်း ခွင့်ရှိသည်။

**သယံဇာတပစ္စည်းများဆိုင်ရာကိစ္စ**

၂၀။ အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းအတွင်း လုပ်ငန်းဆောင်ရွက်သည့် မြေပေါ်မြေအောက်မှ ဓါတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓာတ်ငွေ့ဆိုင်ရာပစ္စည်းများ၊ သဘာဝ သယံဇာတပစ္စည်းများနှင့် ရှေးဟောင်းပစ္စည်းများတွေ့ရှိလျှင် အငှားချထားသူသို့ ချက်ချင်း အကြောင်းကြားရမည်။ ၎င်းပစ္စည်းများကို "အငှားချထားသူ"ကသာ သက်ဆိုင်ပြီး

"အငှားချထားသူ"နှင့် သက်ဆိုင်ရာအဖွဲ့အစည်းများသည် မည်သည့်အချိန်၌မဆို လွတ်လပ်စွာ တူးဖော်စီမံဆောင်ရွက်ခွင့်ရှိစေရမည်။ ရှေးဟောင်းပစ္စည်းများ မထိခိုက်အောင် ထိန်းသိမ်း စောင့်ရှောက်ရမည်။

**သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းခြင်း**

၂၁။ "အငှားချထားခြင်းခံရသူ"သည် သဘာဝပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအမံ "Environmental Management Plan" ကိုစာချုပ်ချုပ်ဆိုပြီး (၁)နှစ်အတွင်း စတင်ရေးဆွဲ၍ တည်ဆဲဥပဒေ၊ နည်းဥပဒေ ညွှန်ကြားချက်များကို လိုက်နာပြီး သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးကိုအလေးထား စောင့်ရှောက်ရမည်။ ဤလုပ်ငန်းဆောင်ရွက်မှုအတွက် ဖြစ်ပေါ်မည့်ပြဿနာများ၊ ရွှေ့ပြောင်းတပ်ဆင်မှုများကို "အငှားချထားခြင်းခံရသူ"မှ တာဝန် ယူဖြေရှင်းရမည်။

**လုပ်ငန်းခွင်ဘေးအန္တရာယ်ကင်းရှင်းရေး**

၂၂။ "အငှားချထားခြင်းခံရသူ"သည် လုံခြုံရေး၊ လုပ်ငန်းခွင်ကျန်းမာရေး၊ လုပ်ငန်းခွင် ဘေးအန္တရာယ်ကင်းရှင်းရေး၊ အရည်အသွေးထိန်းသိမ်းရေး၊ ရေဘေး၊ လေဘေး၊ မီးဘေး စသော သဘာဝဘေးအန္တရာယ်ကာကွယ်ရေးစီမံချက်များ ရေးဆွဲထားရှိပြီး အဆောက်အဦများ လုံလောက်စွာထားရှိရမည်။ လျှပ်စစ်နှင့်ဘွိုင်လာကို တည်ဆဲဥပဒေ စည်းမျဉ်းစည်းကမ်း များနှင့်အညီ သုံးစွဲမည်။ လုပ်ငန်းခွင်ဘေးအန္တရာယ်ကင်းရှင်းရေးအတွက် သတ်မှတ်ထားသော Safety Precaution များနှင့်အညီ လုပ်ငန်းများကို ဆောင်ရွက် ရမည်။

**မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

၂၃။ စာချုပ်ဝင်တစ်ဦးဦးသည် စာချုပ်ပါတာဝန်များကို ရေဘေး၊ မီးဘေး၊ မြေငလျင် ဘေး၊ ရောဂါကပ်ဘေး၊ လေဘေး၊ အစိုးရ ကန့်သတ်ချက်များ၊ တရားဥပဒေနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည့်တို့နှင့် စာချုပ်ဝင် တစ်ဖက်ဖက်က လိုအပ်သောသတိဝိရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှား နိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး ယင်းမလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ယာယီအားဖြင့် မထမ်းဆောင်နိုင်ခဲ့သော် ယင်းသို့သောအခြေအနေကို အခြားတစ်ဖက် စာချုပ်ဝင်သို့ ရက်ပေါင်း(၆၀)အတွင်း အကြောင်းကြားရမည်။ တစ်ဖက်စာချုပ်ဝင်က လက်ခံလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်သည်။ မလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် ယင်းကာလအတွင်းဖြစ်ပေါ်သော

ကြန့်ကြာမှု၊ ဆုံးရှုံးမှုများကြောင့် မည်သည့်စာချုပ်ဝင်မျှ တာဝန်မရှိစေရ။ ၎င်းဖြစ်ရပ်များသည် (၆)လ ဆက်တိုက် အဆီးအတားဖြစ်နေပါက စာချုပ်ဝင်နှစ်ဖက်သည် ဆွေးနွေးတိုင်ပင်၍ စာချုပ်ပြင်ဆင် ခြင်း၊ ဆိုင်းငံ့ခြင်းဆောင်ရွက်ရမည်။

**စာချုပ်အားပြန်လည်စေ့စပ်ညှိနှိုင်းခြင်း**

၂၄။ ဤသဘောတူစာချုပ်၌ ပါရှိသည့် စည်းကမ်းချက်များသည် လုပ်ငန်းများအမှန်တကယ် အကောင်အထည်ဖော်ဆောင်ရွက်သည့်အခါ မမျှော်မှန်းနိုင်သော အခြေအနေတစ်ရပ်ရပ်ကြောင့် စာချုပ်ပါလုပ်ငန်းများ ဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်လျှင် စာချုပ်ဝင်များသည် နှစ်ဦးနှစ်ဖက် စေ့စပ်ညှိနှိုင်းပြီး စာချုပ်ပါစည်းကမ်းချက်များကို ပြန်လည်စေ့စပ်ညှိနှိုင်း၍ ဆောင်ရွက်ရမည်။

**စာချုပ်အားပြင်ဆင်ဖြည့်စွက်ခြင်း**

၂၅။ စာချုပ်စည်းကမ်းများကိုပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်း၊ ထပ်မံဖြည့်သွင်းခြင်းကို ပြုလုပ်လိုပါက "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့သည် နှစ်ဦးနှစ်ဖက် တရားဝင်စာဖြင့် သဘောတူညီချက်ဖြင့် လုပ်ထုံးလုပ်နည်းများနှင့်အညီ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနသို့ တင်ပြဆောင်ရွက်ရမည်။

**ပြန်လည်ဝင်ရောက်ခွင့်**

၂၆။ "အငှားချထားခြင်းခံရသူ"သည် ဤသဘောတူစာချုပ်ပါသည့် စည်းကမ်းချက်များကို လိုက်နာရန်ပျက်ကွက်ပါက ထိုသို့ပျက်ကွက်မှုအတွက် "အငှားချထားသူ"က ပေးပို့သော အကြောင်းကြားစာရရှိပြီးနောက် ရက်ပေါင်း(၆၀)အတွင်း ပျက်ကွက်မှုကို ပြန်လည်ပြင်ဆင်ခြင်းမပြုလျှင် "အငှားချထားသူ"သည် ဘဏ်အာမခံငွေကို သိမ်းယူပြီး ငှားရမ်းသည့် စက်ရုံ၊ ဆိုင်၊ မြေ တို့ကို ပြန်လည်ဝင်ရောက်ရယူခွင့်ရှိသည်။ ထို့အပြင် ထိုသို့ ပြန်လည်ဝင်ရောက်ရယူချိန်မှစ၍ စာချုပ်ရပ်စဲရမည်။ ယင်းသို့ဝင်ရောက်၍ တက်ရောက်ရယူသည့် အခွင့်အရေးသည် ဤစာချုပ်ပါ "အငှားချထားသူ"က "အငှားချထားခြင်းခံရသူ" ထံမှရရှိမည့် ငှားရမ်းခနှင့်ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်များကို မထိခိုက်စေရ။



**ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၂၇။ "အငှားချထားခြင်းခံရသူ" ဤစာချုပ်ပါသက်တမ်းကုန်ဆုံးသည့်အခါဖြစ်စေ စာချုပ်ရပ်စဲသည့်အခါဖြစ်စေ မူလငှားရမ်းစာရင်းပါမြေ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများတိုးချဲ့ခြင်း၊ အသစ်တည်ဆောက်ခြင်းပြုလုပ်ထားသည့် မရွှေ့ပြောင်းနိုင်သော ပစ္စည်းနှင့် ပုံသေပိုင်ပစ္စည်းများအားလုံးကို "အငှားချထားသူ"သို့ အဖိုးအနားမပါရှိဘဲ ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လက်ရောက် လွှဲပြောင်းပေးအပ်ရမည်။ အကယ်၍ စာချုပ်သက်တမ်းအတွင်း မလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် ပျက်စီးဆုံးရှုံးမှုများရှိပါက နှစ်ဦးနှစ်ဖက်ပါဝင်သောအဖွဲ့ဖြင့် စိစစ်၍ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ စာရင်းမှပယ်ဖျက်ခြင်းကို ဆောင်ရွက်ရမည်။

**စာချုပ်ရပ်စဲခြင်း**

၂၈။ ဤစာချုပ်၏ အောက်ပါအကြောင်းကိစ္စများ ဖြစ်ပေါ်လာပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြခွင့်ပြုချက်ရယူ၍ စာချုပ်ကိုရပ်စဲနိုင်သည် -

(က) စာချုပ်သက်တမ်းကုန်ဆုံးခြင်း၊

(ခ) လုပ်ငန်းကို ဆက်လက်လုပ်ကိုင်ရန် မဖြစ်နိုင်သည့် အခြေအနေတစ်ခုခု ဖြစ်လျှင် နှစ်ဦး သဘောတူစာချုပ်ကို ရပ်စဲခြင်း၊

(ဂ) စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို "အငှားချထားခြင်းခံရသူ"မှဖောက်ဖျက်ကျူးလွန်ခြင်း၊

(ဃ) "အငှားချထားခြင်းခံရသူ"က လူမွဲအဖြစ်ခံယူခြင်း၊

(င) မလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် အငှားချထားသည့် ပစ္စည်းပျက်စီးဆုံးရှုံးပြီး လုပ်ငန်းဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်တော့ခြင်း၊

၂၉။ စာချုပ်ရပ်စဲခြင်းသည် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်မှ စာချုပ်ပါတာဝန်ရှိသူများကို အကြောင်းကြား၍ညှိနှိုင်းပြီး ပြီးပြတ်အောင်ရှင်းလင်းပြီးမှသာ ရပ်စဲခြင်းပြီးမြောက်မည်။

၃၀။ စာချုပ်ရပ်စဲပြီးနောက် စာချုပ်ပါငှားရမ်းပစ္စည်းအားလုံးကို "အငှားချထားသူ"၏ လက်ဝယ် သို့ပြန်လည်အပ်နှံရမည်။



**ကြိုတင်စည်းကမ်းသတ်မှတ်ချက်**

၃၁။ အောက်ဖော်ပြပါ သတ်မှတ်ချက်(၃)ချက် ပြီးပြည့်စုံ၍ စာချုပ်ဝင်တစ်ဦးပေါ်တစ်ဦး စာချုပ်ပါ အချက်အလက်များအရ နှောင်ဖွဲ့တာဝန်ရှိစေရမည် -

(က) ဤစာချုပ်ကို "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ" တို့၏ ခွင့်ပြုချက်ရရှိထားသော ကိုယ်စားလှယ်များက နည်းလမ်းတစ်ကျ လက်မှတ်ရေးထိုးခြင်း၊ တံဆိပ်ခတ်နှိပ်ခြင်း၊ တစ်ဦးနှင့်တစ်ဦး စာချုပ် ပေးကမ်းလဲလှယ်ခြင်း။

(ခ) စာချုပ်နှင့်ပတ်သက်၍ ပြည်ထောင်စုအစိုးရ၏ ခွင့်ပြုချက်ရရှိပြီးခြင်း။

(ဂ) ဘဏ်အာမခံပေးသွင်းပြီးခြင်း။

၃၂။ ဤစာချုပ်ပါမြေပုံနှင့် နောက်ဆက်တွဲများသည် ငှားရမ်းခြင်း၊ အကျိုးအမြတ်ခွဲဝေခြင်း သဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်သည်။



အထက်ဖော်ပြပါ စည်းကမ်းချက်များကို သဘောတူလက်ခံပါရန် အောက်ပါ သက်သေများ ရှေ့မှောက်တွင် ခွင့်ပြုချက်ရရှိထားသော အောက်ဖော်ပြပါ ပုဂ္ဂိုလ်များက ၂၀၁၇ ခုနှစ်၊ လ၊ ( ) ရက်နေ့တွင် နေပြည်တော်၊ …………….. ၌ အတည်ပြုလက်မှတ်ရေးထိုးကြသည်။

| | |
|---|---|
| အငှားချထားသူ (ကိုယ်စား) | အငှားချထားခြင်းခံရသူ(ကိုယ်စား) |
| ဦးသန့်စင် | ဦးရဲဝင်း |
| ဦးဆောင်ညွှန်ကြားရေးမှူး | မန်နေးဂျင်းဒါရိုက်တာ |
| မြန်မာ့ရေနံနှင့်ဓာတုဗေဒလုပ်ငန်း | ရတနာစုကုမ္ပဏီလီမိတက် |

အသိသက်သေ

| | |
|---|---|
| ------------------- | ------------------- |
| ------------------- | ------------------- |
| ------------------- | ------------------- |

ရက်ခွဲ ၁၁၈၁၇
အချိန် ၁၁:၃၀

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ စက - ၁၄/၁(၂)- ၂၉/ ၂၀၁၇( ၄၅ )
ရက်စွဲ ၊၂၀၁၇ ခုနှစ် ၊ မတ်လ ၃၁ ရက်

သို့

လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားပေးပို့ခြင်း**

ရည် ညွှန်း ချက် ။ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၏ ၂၃-၃-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ စွမ်းအင်/ မူဝါဒ-ဥပဒေ-လုပ်ငန်းစစ်/၀၄(၂၂၉/၂၀၁၇)

၁။ ကျွန်းချောင်းမှ ရွှေ့ပြောင်းမည့် ရေနံဓာတ်ငွေ့ရည် စက်ရုံအပါအဝင် ညောင်တုန်းရေနံဓာတ်ငွေ့ရည် စက်ရုံနှင့် ရန်ကုန်မြို့ရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင် (၃) ဆိုင်၊ မော်လမြိုင်မြို့ရှိ ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်မြေနေရာတို့အား ငှားရမ်းလုပ်ကိုင်ခြင်းအတွက် လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့် ရတနာစုကုမ္ပဏီလီမိတက်တို့အကြား ချုပ်ဆိုမည့် သဘောတူစာချုပ် (မူကြမ်း) အပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနမှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့် ရတနာစုကုမ္ပဏီလီမိတက်တို့အကြား ချုပ်ဆိုမည့် သဘောတူစာချုပ် (မူကြမ်း) သည် ရေနံဓာတ်ငွေ့ရည် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန် နှစ်ရှည်ငှားရမ်း၍ အကျိုးအမြတ်ခွဲဝေသောစနစ်ဖြင့် အကျိုးတူပူးပေါင်း ဆောင်ရွက်ရန်အတွက် ချုပ်ဆိုမည့် စာချုပ်ဖြစ်ပါသဖြင့် ကုန်သွယ်မှုရှုထောင့်မှ သီးခြားသဘောထား မှတ်ချက်ပေးရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး( ကျော်ဝင်း )
( စိုး၀င်း၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

စီမံကိန်းနှင့် ဘဏ္ဍာရေး ဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ စဘ/စီမံ-၁/၃/ ၉ (၅၈၇/၂၀၁၇)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဇွန်လ ၁၉ ရက်

သို့

လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ **လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့် ရတနာစုကုမ္ပဏီလီမိတက် တို့အကြား ချုပ်ဆိုမည့် သဘောတူစာချုပ်(မူကြမ်း)နှင့် နောက်ဆက်တွဲစာချုပ်(မူကြမ်း)များအပေါ် သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည်ညွှန်းချက် ။ (၁) လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၏ ၂၃-၃-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ စွမ်းအင်/မူဝါဒ-ဥပဒေ-လုပ်ငန်းစစ်/၀၄(၂၃၃/၂၀၁၇)

(၂) စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန၏ ၂၅-၄-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ စဘ/စီမံ-၁/၃/၉(၃၃၀၈/၂၀၁၇)

(၃) လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၏ ၂၃-၅-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ စွမ်းအင်/မူဝါဒ-ဥပဒေ-လုပ်ငန်းစစ်/၀၄(၂၉၅/၂၀၁၇)

၁။ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့် ရတနာစုကုမ္ပဏီလီမိတက် တို့အကြား ချုပ်ဆိုမည့် သဘောတူစာချုပ်(မူကြမ်း)နှင့် နောက်ဆက်တွဲစာချုပ်(မူကြမ်း)များအပေါ် လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနမှ ရည်ညွှန်းချက်(၁)ပါစာဖြင့် သဘောထားမှတ်ချက် တောင်းခံရာ ဤဝန်ကြီးဌာနမှ ရည်ညွှန်းချက်(၂)ပါစာဖြင့် သဘောထားမှတ်ချက် ပြန်ကြားခဲ့ပြီး ဖြစ်ပါသည်။

၂။ ယခုရည်ညွှန်းချက်(၃)ပါစာဖြင့် သဘောထားမှတ်ချက် တောင်းခံလာသည့် သဘောတူစာချုပ်(မူကြမ်း)နှင့် နောက်ဆက်တွဲစာချုပ်(မူကြမ်း)များအပေါ် လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနမှ ဤဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားပြီးဖြစ်ပါ၍ အထူးမှတ်ချက်ပြုရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ထွန်းထွန်းနိုင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ရသုံးမှန်းခြေငွေစာရင်းဦးစီးဌာန
ငွေတိုက်ဦးစီးဌာန
ပြည်တွင်းအခွန်များဦးစီးဌာန
အကောက်ခွန်ဦးစီးဌာန
ရုံးလက်ခံ/မျှောစာတွဲ

စီမံကိန်းနှင့် ဘဏ္ဍာရေး ဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ စဘ/စီမံ-၁/၃/၄ (၃၃၀၈ /၂၀၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဧပြီလ ၂၅ ရက်

သို့

လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ **လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့် ရတနာစု ကုမ္ပဏီလီမိတက် တို့အကြား ချုပ်ဆိုမည့် သဘောတူစာချုပ် (မူကြမ်း)အပေါ် သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၏ ၂၃-၃-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ စွမ်းအင်/မူဝါဒ - ဥပဒေ - လုပ်ငန်းစစ်/ ၀၄ (၂၃၃/၂၀၁၇)

၁။ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့် ရတနာစုကုမ္ပဏီ လီမိတက် တို့အကြား ချုပ်ဆိုမည့် သဘောတူစာချုပ် (မူကြမ်း)အပေါ် အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) စာချုပ် (မူကြမ်း) အရ စာချုပ်ဝင်များအကြား ကျွန်းချောင်းမှ ရွှေ့ပြောင်းမည့် ရေနံဓာတ်ငွေ့ရည် စက်ရုံအပါအဝင် ညောင်တုန်း ရေနံဓာတ်ငွေ့ရည်စက်ရုံနှင့် ရန်ကုန်မြို့ရှိ ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင် (၃) ဆိုင်၊ မှော်ဘီမြို့ရှိ ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင် မြေနေရာတို့အား ငှားရမ်းလုပ်ကိုင်ရန်အတွက် သဘောတူစာချုပ် ချုပ်ဆိုမည်ဖြစ်ပြီး၊ သက်တမ်းမှာ (၃၀) နှစ် ဖြစ်ကြောင်း တွေ့ရှိရပါသည်။

(ခ) စာချုပ် (မူကြမ်း) အပိုဒ် (၉) တွင် ဝန်ထမ်းအင်အား အသေးစိတ်စာရင်းကို နောက်ဆက်တွဲ (ဆ) ဖြင့် ဖော်ပြထားမည်ဟု ပါရှိသော်လည်း ပေးပို့လာသော စာချုပ်တွင် နောက်ဆက်တွဲ (ဆ) မပါရှိကြောင်း တွေ့ရှိရပါသည်။

(ဂ) စာချုပ် (မူကြမ်း) အပိုဒ်(၂၀)ပါ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းမှ တာဝန်ယူဆောင်ရွက်ပေးရမည့် ကိစ္စရပ်များနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာနမှ လက်ခံနိုင်ခြင်း ရှိ မရှိ စိစစ်ရန်နှင့် လက်ခံနိုင်ပါက လိုအပ်သည်များကို ဖြည့်ဆည်းပေးနိုင်ရေးအတွက် ကြိုတင်ပြင်ဆင်ထားရန်ဖြစ်ပါကြောင်း ဖော်ပြအပ်ပါသည်။

(ဃ) စာချုပ် (မူကြမ်း) အပိုဒ် (၂၁) ပါ အငြင်းပွားမှုဖြေရှင်းခြင်းဆိုင်ရာ ကိစ္စရပ်များနှင့် စပ်လျဉ်း၍ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်ရန် ဖြစ်ပါသည်။

(င) စာချုပ် (မူကြမ်း)ပါ ရေနံဓာတ်ငွေ့စက်ရုံနှင့် ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်မြေနေရာ ငှားရမ်းခြင်းကိစ္စနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောတူခွင့်ပြုချက်နှင့်အညီ ဆောင်ရွက်ရန်ဖြစ်ပါသည်။

(စ) စာချုပ် (မူကြမ်း) အရ ရတနာစုကုမ္ပဏီလီမိတက်မှ နှစ်စဉ် ရရှိမည့် ရေနံဓာတ်ငွေ့ရည် စက်ရုံနှင့် အရောင်းဆိုင်မြေနေရာ ငှားရမ်းခ ရငွေများကို မြန်မာ့ရေနံဓာတုဗေဒ လုပ်ငန်း၏ သာမန်ရငွေစာရင်း SEE Account တွင် လည်းကောင်း၊ အကျိုးတူ ပူးပေါင်းဆောင်ရွက်ခြင်းမှ ရရှိသည့် အကျိုးအမြတ်၏ ၅၁ % အတွက် ရငွေကို Other Account စာရင်းတွင် လည်းကောင်း ထည့်သွင်းလျာထားရမည်ဖြစ်ပါသည်။

(ဆ) စာချုပ် (မူကြမ်း) အရ ရေနံဓာတ်ငွေ့ရည်စက်ရုံ (၂) ရုံနှင့် ဓာတ်ငွေ့ရည် အရောင်းဆိုင် (၃) ဆိုင်၊ မှော်ဘီရှိ ဓာတ်ငွေ့ရည် အရောင်းဆိုင်မြေနေရာတို့အား ငှားရမ်း၍ လုပ်ငန်း ဆောင်ရွက်ရာ၌ စက်လည်ပတ်ရက် ၂၀၀ ထက် ကျော်လွန်မှသာ ငှားရမ်းခအား ကျပ်သန်း ၄၀၀ ဟု ဖော်ပြထားပြီး၊ အဆိုပါကာလထက် လျော့နည်းပါက ငှားရမ်းခမှာလည်း လျော့နည်းရရှိမည်ဟု ဖော်ပြထားသောကြောင့် ရေနံဓာတ်ငွေ့ရည် စက်ရုံငှားရမ်းခနှင့် ဓာတ်ငွေ့ရည်အရောင်းဆိုင်၊ မြေနေရာ ငှားရမ်းခများကို သီးခြားသတ်မှတ်၍ ရယူသင့်ပါသည်။

(ဇ) စာချုပ် (မူကြမ်း) အရ ငါးနှစ်တစ်ကြိမ် ငှားရမ်းခ နှုန်းထားများအား ငှားရမ်းခ၏ (၂%) မှ (၅%) ထက်မပိုသော နှုန်းထားဖြင့် နှစ်ဦးနှစ်ဖက် ညှိနှိုင်းတိုးမြှင့်မည်ဖြစ်ရာ ငွေကြေးဖောင်းပွမှုနှုန်းထက် လျော့နည်းရန် မသင့်ပါကြောင်း သုံးသပ်တွေ့ရှိရပါသည်။

(ဈ) စာချုပ် (မူကြမ်း) အရ ဤသဘောတူစာချုပ်သည် နှစ် (၃၀) ကြာ ချုပ်ဆိုမည့် စာချုပ် ဖြစ်ခြင်း၊ မြန်မာ့ရေနံနှင့် သဘာဝဓာတ်ငွေ့လုပ်ငန်းမှ ပေးပို့မည့် ကုန်းတွင်းပိုင်း သဘာဝဓာတ်ငွေ့ အာမခံကာလမှာ (၃) နှစ်ခန့်သာ ရရှိနိုင်မည်ဟုသာ ဖော်ပြထားခြင်း၊ ရေနံဓာတ်ငွေ့ရည် စက်ရုံ (၂) ရုံရှိ ကူးပြောင်းတာဝန်ထမ်းဆောင်ခြင်း မရှိသည့် ဝန်ထမ်းများ၏ လစာစရိတ်နှင့် ပင်စင်အသုံးစရိတ်တို့ကို မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းမှ

ကျခံပေးရမည် ဖြစ်ခြင်းတို့ကြောင့် ရေရှည်တွင် စီးပွားရေးအရ တွက်ချေ ကိုက်မှု ရှိ/ မရှိနှင့် နိုင်ငံတော်မှ စိုက်ထုတ်ပေးရမည့် ရင်းနှီးမြှုပ်နှံမှုတန်ဖိုးနှင့် ပြန်လည်ရရှိမည့် အကျိုးအမြတ်တို့အား နှိုင်းယှဉ်သုံးသပ်၍ ဆောင်ရွက်သင့်ပါသည်။

၂။ စာချုပ် (မူကြမ်း)အရ အကျိုးတူ ပူးပေါင်းဆောင်ရွက်ရာတွင် နိုင်ငံတော်မှ ရရှိမည့် ရငွေ ရာခိုင်နှုန်း၊ အကျိုးတူ ပူးပေါင်းမည့် လုပ်ငန်းမှ စိုက်ထုတ်ကုန်ကျရမည့် အသုံးစရိတ်များကို ရှင်းလင်းစွာ ဖော်ပြသင့်ပါသည်။

၃။ စာချုပ် (မူကြမ်း) ပါလုပ်ငန်းများဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက် ရယူရန်လိုအပ်ပြီး တည်ဆဲရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများနှင့်အညီ ဆောင်ရွက်သင့် ပါသည်။

၄။ နှစ်ဦးနှစ်ဖက်အကြား ချုပ်ဆိုသော သဘောတူစာချုပ်များ ချုပ်ဆိုခြင်းကိစ္စနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဝန်ကြီးဌာနများသည် ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ (၉-၂-၂၀၁၇) ရက်စွဲပါ စာအမှတ်၊ ၉၅/ ၁၆၅- ညွှန်ကြားချက်/ အဖရ (၂/ ၂၀၁၇)နှင့်အညီ လိုက်နာဆောင်ရွက်ရန် ဖြစ်ပါကြောင်း ဖော်ပြအပ်ပါသည်။

၅။ စာချုပ် (မူကြမ်း)ပါ မိမိဘက်မှ တာဝန်ယူဆောင်ရွက်ပေးရမည့် ကိစ္စများနှင့် လုပ်ငန်း ကျွမ်းကျင်မှုဆိုင်ရာ သတ်မှတ်ချက်များနှင့် စပ်လျဉ်း၍ နိုင်ငံတော်၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း စည်းကမ်းများ၊ လုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်မှုရှိရန် လိုအပ်မည်ဖြစ်ပါသဖြင့် သက်ဆိုင်ရာ လုပ်ငန်းအကောင်အထည်ဖော်မည့် ဌာန၊ အဖွဲ့အစည်းမှ တာဝန်ယူစိစစ်ရန်ဖြစ် ပါကြောင်းနှင့် စာချုပ် (မူကြမ်း) ပါ လုပ်ငန်းများနှင့် စပ်လျဉ်း၍ နိုင်ငံတော်အနေဖြင့် နစ်နာမှု မရှိစေရန် အထူးဂရုပြုသင့်ပါကြောင်း ပြန်ကြားအပ်ပါသည်။

25/4/2017

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ထွန်းထွန်းနိုင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာန

ရသုံးမှန်းခြေငွေစာရင်းဦးစီးဌာန
ငွေတိုက်ဦးစီးဌာန
ပြည်တွင်းအခွန်များဦးစီးဌာန
အကောက်ခွန်ဦးစီးဌာန
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်ထောင်စုရှေ့နေချုပ်ရုံး

စာအမှတ်၊ ၂(၅) ၁၆ - ၆၅ /နပတ( ၄၁၈)

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ မေလ ၃၀ ရက်

သို့

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ ၁၆-၅-၂၀၁၇ ရက်စွဲပါစာအမှတ်၊ စွမ်းအင်/မူဝါဒ-ဥပဒေ-လုပ်ငန်းစစ်/ ၀၄ (၂၈၉/ ၂၀၁၇)

(၂) လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ ၂၄-၃-၂၀၁၇ ရက်စွဲပါစာအမှတ်၊ စွမ်းအင်/ မူဝါဒ-ဥပဒေ-လုပ်ငန်းစစ်/ ၀၄ (၂၃၂/ ၂၀၁၇)

(၃) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၁၁-၄-၂၀၁၇ ရက်စွဲပါစာအမှတ်၊ ၂(၅) ၁၆-၆၅/ နပတ (၃၁၉)

၁။ ကျွန်းချောင်းမှ ရွှေ့ပြောင်းမည့်ရေနံဓာတ်ငွေ့ရည်စက်ရုံအပါအဝင် ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံနှင့် ရန်ကုန်မြို့ရှိ အလုံရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်၊ အင်းစိန်ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်၊ မြောက်ဒဂုံရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်၊ မှော်ဘီရေနံဓာတ်ငွေ့ရည်အရောင်းဆိုင် မြေနေရာများအား ငှားရမ်းလုပ်ကိုင်ခြင်းအတွက် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့် ရတနာစုကုမ္ပဏီလီမိတက်တို့အကြား ချုပ်ဆိုမည့် ငှားရမ်းလုပ်ကိုင်ခြင်း သဘောတူစာချုပ်(မူကြမ်း)နှင့်စပ်လျဉ်း၍ ပြန်လည်ပြင်ဆင်စုထားသည့် စာချုပ်(မူကြမ်း)အပေါ် စိစစ်သဘောထားပြန်ကြားပေးနိုင်ပါရန် ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ ရည်ညွှန်းချက်(၁)ပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်(၁)ပါ စာချုပ်(မူကြမ်း)နှင့်စပ်လျဉ်း၍ [illegible]
သဘောထားမှတ်ချက်တောင်းခံလာသဖြင့် ပြည်ထောင်စုရှေ့နေချုပ်ရုံးကစိစစ်ပြီး ရည်ညွှန်းချက်(၃) ပါစာဖြင့် သဘောထားမှတ်ချက်ပြန်ကြားခဲ့ပါသည်။

၃။ ဤရုံး၏ ရည်ညွှန်းချက်(၃)ပါ အကြံပြုချက်အပိုဒ် ၅ အပါအဝင် ဤရုံး၏ အကြံပြုချက်များအပေါ် ရှင်းလင်းတင်ပြပြီး အကြံပြုချက်များအတိုင်း ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြလျက်စာချုပ်(မူကြမ်း)အား ပြန်လည်ပြုစု၍ရည်ညွှန်းချက်(၁)ပါစာဖြင့် ထပ်မံသဘောထားမှတ်ချက်တောင်းခံခြင်းဖြစ်ပါသည်။

၄။ ရည်ညွှန်းချက်(၁)ပါစာနှင့်အတူ ပြန်လည်ပြုစုပေးပို့လာသော စာချုပ်(မူကြမ်း)၌ ဓာတ်ငွေ့ရည်အရောင်းဆိုင်(၄)ဆိုင်အား ငှားရမ်းသည့်စာချုပ်များကို ရေနံဓာတ်ငွေ့ရည်စက်ရုံ(၂)ရုံနှင့်စပ်လျဉ်း၍ ချုပ်ဆိုမည့် ငှားရမ်းခြင်းနှင့် အကျိုးအမြတ်ခွဲဝေခြင်း သဘောတူစာချုပ် (မူကြမ်း)၏ နောက်ဆက်တွဲစာချုပ်များအဖြစ် ပူးတွဲဖော်ပြထားသည်ကို တွေ့ရှိရပါသည်။

၅။ သို့ပါ၍ ရည်ညွှန်းချက်(၁)ပါစာဖြင့် ပြန်လည်ပြုစုပေးပို့လာသော စာချုပ်(မူကြမ်း)အား ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုပြန်ကြားအပ်ပါသည် -

(က) စာချုပ်(မူကြမ်း) အပိုဒ် ၂၂ ၌ အငှားချထားခြင်းခံရသူသို့ အပြီးကူးပြောင်းမည့် ဝန်ထမ်းများနှင့်ပတ်သက်၍ နိုင်ငံ့ဝန်ထမ်းဥပဒေနှင့်အညီ ဆောင်ရွက်သင့်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)၌ စာချုပ်ဝင်အချင်းချင်းဆက်သွယ်အကြောင်းကြားရမည့် လိပ်စာ၊ ဖုန်းနံပါတ်၊ အီးမေးလ်တို့အား သီးခြားခေါင်းစဉ်ဖြင့် ဖော်ပြသင့်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)ပါ ကွက်လပ်များကို စာချုပ်ချုပ်ဆိုချိန်၌ ပြည့်စုံစွာဖော်ပြထားပြီးဖြစ်ရန် လိုအပ်ပါသည်။

၆။ ရည်ညွှန်းချက်(၁)ပါစာဖြင့် ပေးပို့လာသာ စာချုပ်(မူကြမ်း)၏ နောက်ဆက်တွဲများဖြစ်သော ရေနံဓာတ်ငွေ့ရည်ဆိုင် (မြောက်ဒဂုံ)၊ (အလုံ) (အင်းစိန်)(မှော်ဘီ) ငှားရမ်းခြင်းအတွက်

လျှို့ဝှက်

နောက်ဆက်တွဲသဘောတူစာချုပ်(မူကြမ်း) ၄ ရပ်သည် ၄င်းရမ်းမည့်ဆိုင်နေရာများ မတူညီသော်လည်း စာချုပ်ပုံစံတစ်မျိုးတည်းပြုစုလာ၍ တစ်ပေါင်းတည်းစိစစ်ရာ ဥပဒေကြောင်းအရ မှတ်ချက်ပြုရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၇။ စာချုပ်(မူကြမ်း)များပါ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀-၄-၂၀၁၇ ရက်စွဲဖြင့် ထုတ်ပြန်ခဲ့သော အမိန့်ကြော်ငြာစာအမှတ်-၁၅/ ၂၀၁၇ ပါ သက်ဆိုင်ရာဝန်ကြီးဌာနများ၏ အတည်ပြုချက်ဖြင့် ဆောင်ရွက်နိုင်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများ၏ ခေါင်းစဉ်အောက်ရှိ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ အတည်ပြုချက်ရယူဆောင်ရွက်ရမည့်လုပ်ငန်းများ၏ အမှတ်စဉ် ၄ ၌ ရေနံ၊ သဘာဝဓာတ်ငွေ့နှင့် ရေနံထွက်ပစ္စည်းများတင်သွင်း/ တင်ပို့၊ သယ်ယူ၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများနှင့် ယင်းလုပ်ငန်းများဆောင်ရွက်နိုင်ရန်အတွက် လိုအပ်သည့် သိုလှောင်ကန်များ၊ ဆီတင်ဆီချဆိပ်ခံတံတားများပိုက်လိုင်းများ၊ ဆက်စပ်ကရိယာပစ္စည်းများ အကောင်အထည်ဖော်ဆောင်ရွက်ခြင်းလုပ်ငန်းများအားလည်းကောင်း၊ အမှတ်စဉ် ၆ ၌လည်း ရေနံဓာတုဗေဒစက်ရုံ အမျိုးအစား အမျိုးမျိုးအသစ်တည်ဆောက်တပ်ဆင်ခြင်း၊ စက်ရုံအဟောင်းများကို ရင်းနှီးမြှုပ်နှံမှုဖြင့် မွမ်းမံပြုပြင်တည်ဆောက်တပ်ဆင်ခြင်းနှင့် လုပ်ငန်းများ အကောင်အထည်ဖော်ဆောင်ရွက်ခြင်းလုပ်ငန်းများအားလည်းကောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ သို့ပါ၍ စာချုပ်(မူကြမ်း)ပါ လုပ်ငန်းများဆောင်ရွက်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀-၄-၂၀၁၇ ရက်စွဲဖြင့် ထုတ်ပြန်ခဲ့သော အမိန့်ကြော်ငြာစာအမှတ်- ၁၅/ ၂၀၁၇ အရ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ အတည်ပြုချက်ရရှိရန် လိုအပ်ပါသည်။

၈။ စာချုပ်(မူကြမ်း)များပါ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်စပ်လျဉ်း၍ စွမ်းအင်ဝန်ကြီးဌာန၏ ၂၈-၄-၂၀၁၃ ရက်နေ့က ထုတ်ပြန်သော အမိန့်ကြော်ငြာစာ အမှတ်- ၁၀၀/ ၂၀၁၃ ပါ စည်းကမ်းချက်များနှင့်အညီ သက်ဆိုင်ရာဝန်ကြီးဌာနများမှ လိုင်စင်များ လျှောက်ထားရယူရန် လိုအပ်မည်ဖြစ်ပါသည်။

လို/ဝတ်

၉။ ယခုစာချုပ်(မူကြမ်း)နှင့် နောက်ဆက်တွဲ(က)(ခ)(ဂ)(ဃ)ပါ စာချုပ်(မူကြမ်း)များကို မချုပ်ဆိုမီ စီးပွားရေးရာကော်မတီမှတစ်ဆင့် ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက် ရယူရန် လိုအပ်မည်ဖြစ်ပါသည်။

၁၀။ ဤစာချုပ်(မူကြမ်း)နှင့် နောက်ဆက်တွဲ(က)(ခ)(ဂ)(ဃ)ပါ စာချုပ်(မူကြမ်း)များကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန်အကြံပြုပါသည်။

၁၁။ ရတနာစုကုမ္ပဏီလီမိတက်သည် ဥပဒေအရတရားဝင်ဖွဲ့စည်းထားသော ကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကိုလုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိမရှိ၊ စာချုပ်တွင်လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ်စသည်တို့နှင့်စပ်လျဉ်း၍ ကြိုတင်စိစစ်ရန်လိုအပ်မည်ဖြစ်ပါသည်။

၁၂။ ဤစာချုပ်(မူကြမ်း)နှင့် နောက်ဆက်တွဲ(က)(ခ)(ဂ)(ဃ)ပါ စာချုပ်(မူကြမ်း)များကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်စီပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

20/9/12

ပြည်ထောင်စုရှေ့နေချုပ်(ကိုယ်စား)

(ဒေါက်တာသီတာဦး၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ

D-1(LH)
18/4
(1545)

ဓါတ်ဆီနှင့်သဘာဝဓာတ်ငွေ့စီမံရေးညှိနှိုင်းရေးဌာန
စာအမှတ် - 5
ရက်စွဲ 24-4-17
Oil And Gas Planning Department

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## ပြည်ထောင်စုရှေ့နေချုပ်ရုံး

စာအမှတ်၊ ၂(၅)၁၆ - ၆၅/နပတ( ၃၁၉ )

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁၁ ရက်

သို့

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ ၂၃-၃-၂၀၁၇ ရက်စွဲပါစာအမှတ်၊ စွမ်းအင်/မူဝါဒ-ဥပဒေ-လုပ်ငန်းစစ်/ ၀၄ (၂၃၂/ ၂၀၁၇)

၁။ ကျွန်းချောင်းမှ ရွှေ့ပြောင်းမည့်ရေနံဓာတ်ငွေ့ရည်စက်ရုံအပါအဝင် ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံနှင့် ရန်ကုန်မြို့ရှိ အလုံရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်၊ အင်းစိန်ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်၊ မြောက်ဒဂုံရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်၊ မှော်ဘီရေနံဓာတ်ငွေ့ရည်အရောင်းဆိုင် မြေနေရာများအား ငှားရမ်းလုပ်ကိုင်ခြင်းအတွက် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့် ရတနာစုကုမ္ပဏီလီမိတက်တို့အကြား ချုပ်ဆိုမည့် ငှားရမ်းလုပ်ကိုင်ခြင်း သဘောတူစာချုပ်(မူကြမ်း)အပေါ် စိစစ်သဘောထားပြန်ကြားပေးနိုင်ပါရန် ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာ၌ -

(က) အထက်ပါ ရေနံဓာတ်ငွေ့ရည်ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းဆောင်ရွက်နိုင်ရန် နှစ်ရှည်ငှားရမ်း၍ အကျိုးအမြတ်ခွဲဝေသောစနစ်ဖြင့် အကျိုးတူပူးပေါင်းဆောင်ရွက်ရန်ကိစ္စနှင့် စပ်လျဉ်း၍ ၉-၁၂-၂၀၁၆ ရက်နေ့တွင် ကျင်းပပြုလုပ်သော လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ လုပ်ငန်းမှုဆိုင်ရာစီမံခန့်ခွဲမှု

ကော်မတီအစည်းအဝေးအမှတ်စဉ် (၂၀/ ၂၀၁၆)မှ သတ်မှတ်ထားသော လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်ခွင့်ပြုသည်ကို သဘောတူခွင့်ပြုခဲ့ပါကြောင်း၊

(ခ) အဆိုပါခွင့်ပြုချက်နှင့်အညီ အကျိုးတူပူးပေါင်းဆောင်ရွက်ရန် ရေနံဓာတ်ငွေ့ရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းလိုင်စင် (ခ)ရရှိထားသည့် ကုမ္ပဏီ (၁၉)ခု နှင့် Existing LPG Terminal Yadana Su Co., Ltd ၊ Asia AVA Gas Co., Ltd မှ မြန်မာကုမ္ပဏီများဖြစ်သည့် Same Sky Construction Co., Ltd နှင့် Guiding Star Group Ltd. စသည့်ကုမ္ပဏီအဖွဲ့အစည်း(၃)ခု၊ ကုမ္ပဏီစုစုပေါင်း ၂၈ ခုသို့ အဆိုပြုလွှာခေါ်ယူခဲ့ကြောင်း ၊

(ဂ) အဆိုပြုလွှာတင်သွင်းရမည့် နောက်ဆုံးရက်ဖြစ်သော ၉-၁-၂၀၁၇ ရက်နေ့တွင် ရတနာစုကုမ္ပဏီတစ်ခုတည်းမှသာ အဆိုပြုလွှာ တင်သွင်းခဲ့ပါကြောင်း၊

(ဃ) ထိုသို့အဆိုပြုလွှာခေါ်ယူမှုနှင့်ပတ်သက်၍ ၂၀-၁၂-၂၀၁၆ ရက်နေ့တွင် ကျင်းပပြုလုပ်သော လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ အမှုဆောင်ကော်မတီအစည်းအဝေး အမှတ်စဉ် (၁၅/ ၂၀၁၆)နှင့် ၁၇-၁-၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ အမှုဆောင်ကော်မတီအစည်းအဝေး အမှတ်စဉ် (၂/ ၂၀၁၇) တို့မှ သဘောတူအတည်ပြုပြီးဖြစ်ပါကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။

၃။ ပေးပို့လာသောစာချုပ်(မူကြမ်း)အား လေ့လာရာ၌ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) စာချုပ်၏ခေါင်းစဉ်နှင့်အမည်အား "ကျွန်းချောင်းမှ ရွှေ့ပြောင်းမည့် ရေနံဓာတ်ငွေ့ရည်စက်ရုံအပါအဝင် ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံ၊ ရန်ကုန်မြို့ရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(၃)ဆိုင်၊ မော်ဘီရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်မြေနေရာတို့အား ငှားရမ်းလုပ်ကိုင်ခြင်း သဘောတူစာချုပ်ဟု" ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ သို့သော် စာချုပ်(မူကြမ်း)နှင့် အပိုဒ် ၁၂ ၊ ၁၃ ၊ ၁၄ ၊ ၁၅ နှင့် ၁၆ တို့၌ ငှားရမ်းခနှင့် အကျိုးအမြတ်ခွဲဝေမှုတို့နှင့်စပ်လျဉ်း

၍ ဖော်ပြထားရာ စာချုပ်၏ခေါင်းစဉ်၊ အမည်နှင့် စာချုပ်ပါစည်းကမ်းချက်တို့မှာ ကိုက်ညီမှုမရှိကြောင်း၊

(ခ) စာချုပ်(မူကြမ်း)၏ ရည်ရွယ်ချက်၌ အငှားချထားသူ (မြန်မာ့ရေနံနှင့် ဓာတုဗေဒလုပ်ငန်း) ပိုင်ဆိုင်သော ဧရာဝတီတိုင်းဒေသကြီး၊ ညောင်တုန်းမြို့နယ်၊ ကညင်ကောက်ကြီးကျေးရွာအုပ်စုရှိ ရေနံဓာတ်ငွေ့ရည်စက်ရုံတွင် အငှားချခြင်းခံရသူ (ရတနာစုကုမ္ပဏီလီမိတက်)မှ မြန်မာ့ရေနံနှင့် သဘာဝဓာတ်ငွေ့လုပ်ငန်းမှ သဘာဝဓာတ်ငွေ့များကို ဝယ်ယူပြီး ရေနံဓာတ်ငွေ့ရည်များထုတ်လုပ်ခြင်း၊ ရပ်နားထားသော ကျွန်းချောင်းရေနံဓာတ်ငွေ့ရည်စက်ရုံကို ညောင်တုန်းစက်ရုံသို့ ပြောင်းရွှေ့တပ်ဆင်လည်ပတ်ခြင်း၊ ရေနံဓာတ်ငွေ့ရည်များကို သတ်မှတ်ထားသည့် လိုင်စင်များရယူ၍ ချက်လုပ်ခြင်း၊ တင်သွင်းခြင်း၊ သိုလှောင်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း၊ ရန်ကုန်မြို့ရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင် ၃ ဆိုင်တွင် ရေနံဓာတ်ငွေ့ရည်များ ရောင်းချခြင်း၊ ရေနံဓာတ်ငွေ့ရည်မီးဖိုနှင့် အရန်ပစ္စည်းများ၊ ရေနံဓာတ်ငွေ့ရည်အိုးများ၊ မီးသတ်ဆေးဗူးများ စသော ဆက်စပ်ပစ္စည်းများ ရောင်းချခြင်း၊ ဆလင်ဒါအိုးများနှင့် ဓာတ်ငွေ့မီးဖိုများ ပြုပြင်ပေးခြင်း စသော ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခြင်း၊ အရောက်စနစ်ဖြင့် ရောင်းချခြင်း၊ မော်ဘီဓာတ်ငွေ့ရည်အရောင်းဆိုင်မြေနေရာတွင် ဓာတ်ငွေ့ရည်အရောင်းဆိုင် တိုးချဲ့ဖွင့်လှစ်ခြင်းတို့ကို ဆောင်ရွက်နိုင်ရန် ရည်ရွယ်သည်ဟုဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁-၃-၂၀၁၆ ရက်စွဲဖြင့် ထုတ်ပြန်ခဲ့သော အမိန့်ကြော်ငြာစာအမှတ်- ၂၆/ ၂၀၁၆ စီးပွားရေးလုပ်ငန်းအမျိုးအစားများ ပြင်ဆင်သတ်မှတ်ခြင်းပါ အခြားကန့်သတ်ချက်ဖြင့် ဖက်စပ်စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်းအမျိုးအစားများ စာရင်း၏ အမှတ်စဉ် ၁ ၌ ရေနံ၊ သဘာဝဓာတ်ငွေ့နှင့် ရေနံထွက်ပစ္စည်းများ

တင်သွင်း/ တင်ပို့၊ သယ်ယူ၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများနှင့် ယင်းလုပ်ငန်းများဆောင်ရွက်နိုင်ရန်အတွက် လိုအပ်သည့် သိုလှောင်ကန်များ၊ ဆီတင် ဆီချ ဆိပ်ခံတံတားများ ပိုက်လိုင်းများ၊ ဆက်စပ်ကရိယာပစ္စည်းများ အကောင်အထည်ဖော်ဆောင်ရွက်ခြင်းလုပ်ငန်းများအား စွမ်းအင်ဝန်ကြီးဌာန နှင့်သာ ဖက်စပ်စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုသည်ကို ဖော်ပြထားကြောင်း တွေ့ရှိရပါသည်။ ထို့အပြင် အဆိုပါစီးပွားရေးလုပ်ငန်းအမျိုးအစားများ စာရင်း၏ အမှတ်စဉ် ၆ ၌လည်း ရေနံဓာတုဗေဒစက်ရုံ အမျိုးအစား အမျိုးမျိုးအသစ်တည်ဆောက်တပ်ဆင်ခြင်း၊ စက်ရုံအဟောင်းများကို ရင်းနှီးမြှုပ်နှံမှုဖြင့် မွမ်းမံပြုပြင်တည်ဆောက်တပ်ဆင်ခြင်းနှင့် လုပ်ငန်းများ အကောင်အထည်ဖော်ဆောင်ရွက်ခြင်းလုပ်ငန်းများအား စွမ်းအင်ဝန်ကြီး ဌာနနှင့်သာ ဖက်စပ်စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုသည်ကို ဖော်ပြထားကြောင်း တွေ့ရှိရပါသည်။ သို့ပါ၍ စာချုပ်(မူကြမ်း)ပါ ဆောင်ရွက်မည့်လုပ်ငန်းများ သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄-၃-၂၀၁၆ ရက်စွဲဖြင့် ထုတ်ပြန်ခဲ့သော အမိန့်ကြော်ငြာစာအမှတ်- ၂၆/ ၂၀၁၆ နှင့် ကိုက်ညီမှု မရှိသည်ကို စိစစ်တွေ့ရှိရပါကြောင်း၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် ၄ အငှားချထားသည့်ပစ္စည်းများ၌ အငှားချထားမည့် ပစ္စည်းများ ဧရာဝတီတိုင်းဒေသကြီး၊ ညောင်တုန်းမြို့နယ်၊ ရိုးကြီးကျေးရွာ အနီးရှိ ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံ၊ မကွေးတိုင်းဒေသကြီး ပခုက္ကူမြို့နယ်ရှိ ကျွန်းချောင်းရေနံဓာတ်ငွေ့ရည်စက်ရုံ (ညောင်တုန်းစက်ရုံ ဧရိယာသို့ ပြောင်းရွှေ့မည်) ရန်ကုန်တိုင်းဒေသကြီး၊ အလုံမြို့နယ်၊ အင်းစိန်မြို့နယ်၊ မြောက်ဒဂုံမြို့နယ်နှင့် မှော်ဘီမြို့နယ်တို့ရှိ ရေနံဓာတ်ငွေ့ရည် ဆိုင်နှင့် မြေနေရာများဖြစ်ကြောင်း တွေ့ရှိရပါသည်။ အငှားချထားမည့် ပစ္စည်းများသည် အမျိုးအစားမတူညီခြင်း၊ တည်နေရာများ မတူညီသည့်

အပြင် လုပ်ငန်းဆောင်ရွက်မည့် လုပ်ငန်းအမျိုးအစားများသည် တူညီမှုမရှိသည်ကို တွေ့ရှိရပါကြောင်း၊

(ဃ) ထို့အပြင် စာချုပ်(မူကြမ်း)တွင် ရေနံဓာတ်ငွေ့ရည်စက်ရုံနှင့် ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်နှင့် ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင် မြေနေရာများကို ငှားရမ်းခြင်းလည်း မဟုတ် အကျိုးတူပူးပေါင်းဆောင်ရွက်ခြင်းလည်း မဟုတ်၊ အကျိုးအမြတ် ခွဲဝေခံစားခြင်းလည်းမဟုတ်ဘဲ ငှားရမ်းခြင်းနှင့် အကျိုးအမြတ်ခွဲဝေခံစား ခြင်းတို့အား ရောထွေးစွာဖော်ပြထားကြောင်း၊

(င) စာချုပ်(မူကြမ်း) အပိုဒ် ၉၊ ၁၀ နှင့် ၁၁ တို့တွင် ဝန်ထမ်းလွှဲပြောင်းခြင်း၊ ဝန်ထမ်းရေးရာကိစ္စရပ်များ၊ စည်းကမ်းချက်များကိုလည်း ထည့်သွင်းဖော်ပြထားရာ ငှားရမ်းခြင်းစာချုပ်ပုံစံသက်သက်မဟုတ်သည်ကို တွေ့ရှိရကြောင်း၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် ၂၃ အငြင်းပွားမှုဖြေရှင်းခြင်း၌ ဤစာချုပ်နှင့်စပ်လျဉ်း၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်လာပါက နှစ်ဖက်ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ ဖြေရှင်းမရပါက ထိုအငြင်းပွားမှုကို တစ်ဖက်စီလက်ရှိခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားမည့် သမာဓိလူကြီး၏ အဆုံးအဖြတ်ကို ခံယူရမည်။ ခုံလူကြီးနှစ်ဦး သို့မဟုတ် သမာဓိလူကြီး၏ အဆုံးအဖြတ်သည် အပြီးဖြစ်စေရမည့်အပြင် နှစ်ဦးအပေါ်၌လည်း အတည်ဖြစ်ရမည်။ အဆိုပါဖြေရှင်းခြင်းသည် ပြည်ထောင်စုလွှတ်တော်ဥပဒေအမှတ်- ၅/ ၂၀၁၆ အရ ပြဋ္ဌာန်းထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များနှင့်အညီဖြစ်ရမည်ဟု ဖော်ပြထားပါသည်။ အငြင်းပွားမှုကို အနုညာတစီရင်ဆုံးဖြတ်ခြင်း ဥပဒေ၊ ပြည်ထောင်စုလွှတ်တော်ဥပဒေအမှတ်- ၅/ ၂၀၁၆ နှင့်အညီ ဖြေရှင်းမည်ဆိုပါက ယင်းဥပဒေပုဒ်မ ၁၂(က) ၌ "အငြင်းပွားသူများသည် ခုံသမာဓိဦးရေကို လွတ်လပ်စွာသတ်မှတ်နိုင်သည်။ သို့ရာတွင် ခုံသမာဓိ

ဦးရေမှာ တစ်ဦးထက်ပိုလျှင် စုံဂဏာန်းမဖြစ်စေရ” ဟုလည်းကောင်း၊ ပုဒ်မ ၁၂(စ) ၌ “ပုဒ်မခွဲ(က)တွင် ဖော်ပြထားသည့်အတိုင်း ခုံသမာဓိဦးရေကို သတ်မှတ်နိုင်ခြင်းမရှိလျှင် (၁)ဦးတည်းသော ခုံသမာဓိဖြင့် ဆောင်ရွက်ရမည်” ဟုလည်းကောင်း ပြဋ္ဌာန်းထားပါသည်။ သို့ပါ၍ ခုံသမာဓိဦးရေ သတ်မှတ်ခြင်းသည် အနုညာတစီရင်ဆုံးဖြတ်ခြင်း ဥပဒေ(၂၀၁၆)နှင့် ကိုက်ညီမှုမရှိကြောင်း၊

(ဆ) ယခုစာချုပ်(မူကြမ်း)အား မချုပ်ဆိုမီ အဆိုပြုလွှာခေါ်ယူခဲ့ ကြောင်း ဖော်ပြထားပါသည်။သို့သော် ယင်းအဆိုပြုလွှာ(မိတ္တူ)ပူးတွဲပါရှိလာခြင်းမရှိ၍ အဆိုပြုလွှာ၌ မည်ကဲ့သို့ ခေါ်ယူ အဆိုပြုခဲ့သည်ကို စိစစ်နိုင်ခြင်းမရှိပါကြောင်း။

၄။ အထက်ပါစိစစ်တွေ့ရှိချက်များအပေါ် အောက်ပါအတိုင်းသုံးသပ် အကြံပြုပြန်ကြားအပ်ပါသည်-

(က) စာချုပ်(မူကြမ်း)သည် မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းပိုင် ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံ၌ မြန်မာ့ရေနံနှင့် သဘာဓာတ်ငွေ့လုပ်ငန်းမှ သဘာဝဓာတ်ငွေ့များကို ဝယ်ယူပြီး ရေနံဓာတ်ငွေ့ရည်များ ထုတ်လုပ်ခြင်း၊ ရပ်နားထားသော ကျွန်းချောင်းရေနံဓာတ်ငွေ့ရည်စက်ရုံကို ညောင်တုန်းစက်ရုံသို့ ပြောင်းရွှေ့တပ်ဆင်လည်ပတ်ခြင်း၊ ရေနံဓာတ်ငွေ့ရည်များကို သတ်မှတ်ထားသည့်လိုင်စင်များ ရယူ၍ ချက်လုပ်ခြင်း၊ တင်သွင်းခြင်း၊ သိုလှောင်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းတို့သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ်- ၂၆/ ၂၀၁၆ (၂၄-၃-၂၀၁၆)ပါအခြားကန့်သတ်ချက်ဖြင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်းအမျိုးအစားများစာရင်း၊ အမှတ်စဉ် ၁ နှင့် ၆ ပါ လုပ်ငန်းများ၌ အကျုံးဝင်သောကြောင့် စာချုပ်(မူကြမ်း)ပါ လုပ်ငန်းများသည် စွမ်းအင်ဝန်ကြီးဌာနနှင့်သာ ဖက်စပ်စနစ်ဖြင့် ဆောင်ရွက်နိုင်မည်ဖြစ်ပါကြောင်း၊

(ခ) ထို့အပြင် စာချုပ်(မူကြမ်း)၌ဖော်ပြထားသော အငှားချထားမည့် ပစ္စည်းများ သည် ရေနံဓာတ်ငွေ့စက်ရုံ၊ ရေနံဓာတ်ငွေ့ရည်ဆိုင်နှင့် မြေနေရာများဖြစ်ပြီး အမျိုးအစားများမတူညီသည့်အပြင် တည်နေရာများ ကွဲပြားခြင်း၊ ဆောင်ရွက် မည့်လုပ်ငန်းအမျိုးအစားတို့ မတူညီသဖြင့် သီးခြားစာချုပ်တစ်ရပ်စီ ချုပ်ဆို၍ ဆောင်ရွက်သင့်ပါကြောင်း၊

(ဂ) သို့ရာတွင် အထက်အပိုဒ် ၂ ပါအတိုင်း ရည်ညွှန်းစာပါ ဖော်ပြချက်များအရ ဆောင်ရွက်မည့်လုပ်ငန်းအမျိုးအစားနှင့် စပ်လျဉ်း၍ "ရေနံဓာတ်ငွေ့ရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်နှစ်ရှည်ငှားရမ်း၍ အကျိုးအမြတ်ခွဲဝေသောစနစ်ဖြင့် အကျိုးတူပူးပေါင်းဆောင်ရွက်ရန်ကိစ္စ" ဟု ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ သို့ဖြစ်၍ ဆောင်ရွက်မည့်လုပ်ငန်းသည် သက်ဆိုင်ရာဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ရှိသော လုပ်ငန်းအမျိုးအစားဖြစ် ရန်လိုအပ်သည့်အပြင် စာချုပ်ချုပ်ဆိုရာ၌လည်း စာချုပ်အမျိုးအစားခေါင်းစဉ် နှင့် စာချုပ်ပါစည်းကမ်းချက်များ လိုက်လျောညီထွေမှုရှိစေရန်လည်း လိုအပ် မည်ဖြစ်ပါကြောင်း၊

(ဃ) ချုပ်ဆိုမည့် စာချုပ်များ၌ အငြင်းပွားမှုဖြေရှင်းခြင်းသည် အနုညာတစီရင် ဆုံးဖြတ်ခြင်းဥပဒေ (ပြည်ထောင်စုလွှတ်တော်ဥပဒေအမှတ်- ၅/ ၂၀၁၆) နှင့် အညီ ဖြေရှင်းမည်ဆိုပါက ယင်းဥပဒေပါပြဋ္ဌာန်းချက်များနှင့်အညီ ဖြေရှင်း ဆောင်ရွက်ဖော်ပြရန်လိုအပ်ပါကြောင်း၊

(င) စာချုပ်(မူကြမ်း)ပါ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်စပ်လျဉ်း၍ စွမ်းအင် ဝန်ကြီးဌာန၏ ၂၈-၄-၂၀၁၃ ရက်နေ့က ထုတ်ပြန်သော အမိန့်ကြော်ငြာစာ အမှတ်- ၁၀၀/ ၂၀၁၃ ပါ စည်းကမ်းချက်များနှင့်အညီ သက်ဆိုင်ရာဝန်ကြီး ဌာနများမှ လိုင်စင်များ လျှောက်ထားရယူရန်လိုအပ်မည်ဖြစ်ပါကြောင်း။

၅။ စာချုပ်(မူကြမ်း)ပါ ဆောင်ရွက်မည့်လုပ်ငန်းများသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ်- ၂၆/ ၂၀၁၆ (၂၄-၃-၂၀၁၆) အရ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန (ယခင်စွမ်းအင်ဝန်ကြီးဌာန) နှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်နိုင်မည်ဖြစ်သောကြောင့် ဖက်စပ်စနစ်ဖြင့် ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အား စိစစ်နိုင်ရန်အတွက် ဤရုံးသို့ ပေးပို့နိုင်ပါကြောင်း နှင့် ယခုစာချုပ်(မူကြမ်း)အား ဤစာနှင့်အတူ ပြန်လည်ပေးပို့ပါသည်။

၆။ ဤအကြံပြုချက်ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန်အကြံပြုပါသည်။

ပြည်ထောင်စုရှေ့နေချုပ်(ကိုယ်စား)
(ဒေါက်တာသီတာဦး၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ

| | ဝန်ကြီးဌာန | အကြောင်းအရာ | ဆောင်ရွက်လိုသည့်ကိစ္စ | ထောက်ခံချက် |
|---|---|---|---|---|
| ) | လျှပ်စစ်နှင့်စွမ်းအင် ဝန်ကြီးဌာန | ရေနံဓာတ်ငွေ့ရည် ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် မြန်မာ့ရေနံ ဓာတုဗေဒလုပ်ငန်းနှင့် ရတနာစုကုမ္ပဏီ တို့အကြား ချုပ်ဆိုမည့် အမြတ်ခွဲဝေမှု သဘောတူ စာချုပ်နှင့် နောက်ဆက်တွဲ စာချုပ်များအား လက်မှတ်ရေးထိုး ခွင့် ပြုပါရန်ကိစ္စ။ | <u>လက်မှတ်ရေးထိုးခွင့်</u><br>ရေနံဓာတ်ငွေ့ရည် စက်ရုံ(၂)ရုံ လည်ပတ် ထုတ်လုပ်ခြင်း၊ ရေနံဓာတ်ငွေ့ရည် အရောင်း ဆိုင် (၄)ဆိုင်တို့ကို ငှားရမ်း၍ ဖြန့်ဖြူး ရောင်းချခြင်းနှင့် အမြတ်ခွဲဝေမှု သဘောတူ စာချုပ် နှင့် နောက်ဆက်တွဲ စာချုပ်များ<br>မြန်မာ့ရေနံ ဓာတုဗေဒ လုပ်ငန်းနှင့် ရတနာစုကုမ္ပဏီ | သဘောတူပါသည်။ |

လိုရက်

၂၀၁၅ ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး ၂၀.၄.၁၇
၂၀၁၅ ၁၁:၅၀

စာအမှတ်၊ ၀၆ ၇၆
ရက်စွဲ ၂၀-၄-၁၇
သို့

စာအမှတ်၊ စဆ-၁/ ၁၄၀ (၃၅ /၂၀၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဧပြီလ (၁၂) ရက်

သို့
ပြည်ထောင်စုဝန်ကြီး
လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ **လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ "မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့် ရတနာခုကုမ္ပဏီလီမိတက်တို့အကြား ကျွန်းချောင်းမှရွှေ့ပြောင်းမည့် ရေနံဓာတ်ငွေ့ရည်စက်ရုံအပါအဝင် ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံနှင့် ရန်ကုန်မြို့ရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(၃)ဆိုင်၊ မှော်ဘီမြို့ရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင် မြေနေရာတို့အား ငှားရမ်းလုပ်ကိုင်ခြင်း သဘောတူစာချုပ်" မူကြမ်းအပေါ် သဘောထားမှတ်ချက်တောင်းခံခြင်း**

ရည်ညွှန်းချက်။ (၁) လိပ်မူပါရုံး၏ ၂၃-၃-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ စွမ်းအင်/မူဝါဒ- ဥပဒေ-လုပ်ငန်းစစ်/၀၄(၂၃၁/၂၀၁၇)
(၂)နိုင်ငံတော်သမ္မတရုံး၏ ၁၀-၄-၂၀၁၇ ရက်စွဲပါ ညွှန်ကြားချက်အမှတ်၊ ၁/၂၀၁၇

၁။ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ "မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့်ရတနာခုကုမ္ပဏီလီမိတက်တို့အကြား ကျွန်းချောင်းမှရွှေ့ပြောင်းမည့် ရေနံဓာတ်ငွေ့ရည်စက်ရုံအပါအဝင် ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံနှင့် ရန်ကုန်မြို့ရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်(၃)ဆိုင်၊ မှော်ဘီမြို့ရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်မြေနေရာတို့အား ငှားရမ်းလုပ်ကိုင်ခြင်း သဘောတူစာချုပ်" မူကြမ်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်း(၁)ပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အထက်ပါကိစ္စနှင့်စပ်လျဉ်း၍ ဤရုံး၏သဘောထားများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) နိုင်ငံတော်သမ္မတရုံး၏ ရည်ညွှန်းချက်(၂)ညွှန်ကြားချက်အမှတ် ၁/၂၀၁၇ ပါ အစိုးရဌာနအဖွဲ့အစည်းများ၏ တည်ဆောက်ခြင်း၊ ပစ္စည်းဝယ်ယူခြင်း၊ ဝန်ဆောင်မှုရယူခြင်း၊ ငှားရမ်းခြင်းနှင့်ရောင်းချခြင်းများဆောင်ရွက်ရာတွင် လိုက်နာရမည့် တင်ဒါလုပ်ထုံးလုပ်နည်းအရ အစိုးရဌာန၊ အဖွဲ့အစည်းများ၏ ငှားရမ်းခြင်းနှင့်ပတ်သက်သည့် လိုက်နာရမည့် စည်းကမ်းသတ်မှတ်ချက်နှင့်အညီ တိကျစွာလိုက်နာဆောင်ရွက်ရန်၊

ကန့်သတ်

(ခ) စာရင်းစစ်ဆေးမှုနှင့်စပ်လျဉ်း၍ ပြင်ပစာရင်းစစ်များမှ စစ်ဆေးထားသော ဘဏ္ဍာရေးရှင်းတမ်းနှင့် လုပ်ငန်းများအား လိုအပ်ပါက ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး၏ စစ်ဆေးမှုကို ခံယူရန်၊

(ဂ) မကြာမီ ပြဋ္ဌာန်းလာတော့မည့် ပြည်သူ့ဘဏ္ဍာစီမံခန့်ခွဲမှုဆိုင်ရာဥပဒေ၊ ပစ္စည်းဝယ်ယူရေးဥပဒေများနှင့်အညီ တိကျစွာ လိုက်နာဆောင်ရွက်ရန်၊

၃။ ထို့ပြင် အကြောင်းအရာပါကိစ္စရပ်နှင့် စပ်လျဉ်း၍ စီးပွားရေးရာကော်မတီမှတဆင့် ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြဆောင်ရွက်ရန်လိုအပ်ပါသည်။

(signature)

ပြည်ထောင်စုစာရင်းစစ်ချုပ်(ကိုယ်စား)
(ခင်စန်းဦး၊အမြဲတမ်းအတွင်းဝန်)

မိတ္တူ
ရုံးလက်ခံ
မျှော

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

စာအမှတ်၊ မဗဘ/ ဘဏ်စိစစ်/ ၄(၇၉/၂၀၁၇)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၅ ရက်

သို့

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ ။ **လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့် ရတနာစုကုမ္ပဏီတို့ချုပ်ဆိုမည့် ညောင်တုန်း ရေနံဓာတ်ငွေ့ရည်စက်ရုံနှင့် ရန်ကုန်မြို့ရှိ ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင် (၃)ဆိုင်၊ မှော်ဘီရှိ ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်မြေနေရာတို့အား ငှားရမ်းလုပ်ကိုင်ခြင်း သဘောတူစာချုပ် (မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ ၂၃-၃-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ စွမ်းအင်/ မူဝါဒ-ဥပဒေ-လုပ်ငန်းစစ်/ ၀၄ (၂၃၀/၂၀၁၇)

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနက မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့် ရတနာစုကုမ္ပဏီလီမိတက်တို့အကြား ချုပ်ဆိုမည့် ကျွန်းချောင်းမှ ရွှေ့ပြောင်းမည့် ရေနံဓာတ်ငွေ့ရည်စက်ရုံအပါအဝင် ညောင်တုန်း ရေနံဓာတ်ငွေ့ရည်စက်ရုံနှင့် ရန်ကုန်မြို့ရှိ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင် (၃)ဆိုင်၊ မှော်ဘီရှိ ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်မြေနေရာတို့အား ငှားရမ်းလုပ်ကိုင်ခြင်း သဘောတူစာချုပ် (မူကြမ်း)အပေါ် ရည်ညွှန်းချက်ပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာခြင်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံတော်ဗဟိုဘဏ်အနေဖြင့် သဘောထားမှတ်ချက်ပြုရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၅/၄/၂၀၁၇
ဥက္ကဋ္ဌ(ကိုယ်စား)
(ခင်စောဦး၊ ဒုတိယဥက္ကဋ္ဌ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်ထောင်စုလွှတ်တော်ရုံး

စာအမှတ်၊ ၆ /၁၁ / ၇( ၆ )/ပထစ-၂၀၁၇

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇွန်လ ၅ ရက်

အကြောင်းအရာ ။ **အစည်းအဝေးမှတ်တမ်းစာအုပ်များ ပေးပို့ခြင်း**

၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ ၃၀ ရက်မှ မတ်လ ၁၇ ရက်ထိ ကျင်းပပြုလုပ်ခဲ့သည့် ဒုတိယအကြိမ် ပြည်ထောင်စုလွှတ်တော် စတုတ္ထပုံမှန်အစည်းအဝေးမှတ်တမ်း (ပထမတွဲ)နှင့် (ဒုတိယတွဲ)မှာအုပ် တစ်အုပ်စီကို လိုအပ်သလို အသုံးပြုနိုင်ပါရန် ပေးပို့အပ်ပါသည်။

၅.၆.၂၀၁၇

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)

( [illegible] ညွှန်ကြားရေးမှူးချုပ်)

**ဖြန့်ဝေခြင်း**

နိုင်ငံတော်သမ္မတရုံး

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်သူ့လွှတ်တော်ရုံး

အမျိုးသားလွှတ်တော်ရုံး

ပြည်ထောင်စုတရားလွှတ်တော်ချုပ်ရုံး

တပ်မတော်ကာကွယ်ရေးဦးစီးချုပ်ရုံး

နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံး

ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်ရုံး

ဒုတိယတပ်မတော်ကာကွယ်ရေးဦးစီးချုပ်ရုံး

ပြည်ထောင်စုဝန်ကြီးဌာနအားလုံး

ပြည်ထောင်စုရှေ့နေချုပ်ရုံး

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## ပြည်ထောင်စုလွှတ်တော်ရုံး

စာအမှတ်၊ ၆ /၁၁ / ၇( ၆ )/ပထစ-၂၀၁၇
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇွန်လ ၅ ရက်

အကြောင်းအရာ ။ **အစည်းအဝေးမှတ်တမ်းစာအုပ်များ ပေးပို့ခြင်း**

၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ ၃၀ ရက်မှ မတ်လ ၁၇ ရက်ထိ ကျင်းပပြုလုပ်ခဲ့သည့် ဒုတိယအကြိမ် ပြည်ထောင်စုလွှတ်တော် စတုတ္ထပုံမှန်အစည်းအဝေးမှတ်တမ်း (ပထမတွဲ)နှင့် (ဒုတိယတွဲ)မှာအုပ် တစ်အုပ်စီကို လိုအပ်သလို အသုံးပြုနိုင်ပါရန် ပေးပို့အပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
([illegible] ဒုတိယညွှန်ကြားရေးမှူးချုပ်)

ဖြန့်ဝေခြင်း

နိုင်ငံတော်သမ္မတရုံး
သမ္မတဦးစီးရုံး
ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ပြည်သူ့လွှတ်တော်ရုံး
အမျိုးသားလွှတ်တော်ရုံး
ပြည်ထောင်စုတရားလွှတ်တော်ချုပ်ရုံး
တပ်မတော်ကာကွယ်ရေးဦးစီးချုပ်ရုံး
နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံး
ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်ရုံး
ဒုတိယတပ်မတော်ကာကွယ်ရေးဦးစီးချုပ်ရုံး
ပြည်ထောင်စုဝန်ကြီးဌာနအားလုံး
ပြည်ထောင်စုရှေ့နေချုပ်ရုံး

5/11/20

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## ဒုတိယအကြိမ် ပြည်ထောင်စုလွှတ်တော် စတုတ္ထပုံမှန်အစည်းအဝေး

(၁၄)ရက်မြောက်နေ့မှတ်တမ်း

၁၃၇၈ ခုနှစ်၊ တပေါင်းလပြည့်ကျော် ၁ ရက်

(၂၀၁၇ ခုနှစ်၊ မတ်လ ၁၃ ရက်)

(တနင်္လာနေ့)

နေပြည်တော်ရှိ ပြည်ထောင်စုလွှတ်တော် အစည်းအဝေးခန်းမတွင် ဒုတိယအကြိမ် ပြည်ထောင်စုလွှတ်တော် စတုတ္ထပုံမှန်အစည်းအဝေး (၁၄)ရက်မြောက်နေ့ကို နံနက် ၁၀.၀၀ နာရီအချိန်၌ စတင်ကျင်းပပါသည်။

[ ပြည်ထောင်စုလွှတ်တော် အစည်းအဝေးတွင် နာယကအဖြစ် အမျိုးသားလွှတ်တော် ဥက္ကဋ္ဌ မန်းဝင်းခိုင်သန်းက ဆောင်ရွက်ပြီး အခမ်းအနားမှူးအဖြစ် ပြည်ထောင်စုလွှတ်တော်ရုံး ညွှန်ကြားရေးမှူးချုပ် ဦးကျော်စိုးက ဆောင်ရွက်ပါသည်။]

## ပြည်ထောင်စုလွှတ်တော် နာယက နေရာယူခြင်း

အချိန်၊ ၁၀:၀၀။

**အခမ်းအနားမှူး။** ။ လေးစားအပ်ပါသော ပြည်ထောင်စုလွှတ်တော် ကိုယ်စားလှယ်များနှင့် ဧည့်သည်တော်များခင်ဗျား။ ယခုအချိန်ကစပြီး ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဒုတိယအကြိမ် ပြည်ထောင်စုလွှတ်တော် စတုတ္ထပုံမှန်အစည်းအဝေးရဲ့ (၁၄)ရက်မြောက်နေ့ အစီအစဉ်စတင်ပါတော့မယ်။ ယနေ့အစည်းအဝေးကို ရန်ကုန်စီးပွားရေးတက္ကသိုလ်မှ ဖွင့်လှစ်သင်ကြားလျက်ရှိတဲ့ ပြည်သူ့ရေးရာစီမံခန့်ခွဲမှုဘွဲ့ မဟာဘွဲ့သင်တန်းမှ ဆရာ/ဆရာမများနှင့် ကျောင်းသား/ကျောင်းသူများ ၁၆၆ ဦး အပါအဝင် ပြည်သူ စုစုပေါင်း ၁၉၀ ဦး လာရောက်လေ့လာလျက်ရှိကြောင်း တင်ပြအပ်ပါတယ်။

ပြည်ထောင်စုလွှတ်တော် နာယက ကြွရောက်လာပါပြီခင်ဗျား။

[ နာယကသည် နာယကအတွက် သတ်မှတ်ထားသော စင်မြင့်ပေါ်သို့ ကြွရောက်နေရာယူပါသည်။]

**နာယက။** ။ အားလုံးမင်္ဂလာပါ။

**အခမ်းအနားမှူး။** ။ အားလုံးထိုင်နိုင်ကြပါပြီ ခင်ဗျား။

## ပြည်ထောင်စုလွှတ်တော် အစည်းအဝေး အထမြောက်ကြောင်းနှင့် စတင်ကျင်းပကြောင်း ကြေညာခြင်း

**နာယက။** ။ ပြည်ထောင်စုလွှတ်တော် ကိုယ်စားလှယ်များခင်ဗျား။ ဒီကနေ့ ကျင်းပတဲ့ ဒုတိယအကြိမ် ပြည်ထောင်စုလွှတ်တော် စတုတ္ထပုံမှန်အစည်းအဝေး (၁၄)ရက်မြောက်နေ့မှာ ပြည်ထောင်စုလွှတ်တော် ကိုယ်စားလှယ်များစိစစ်ရေးကော်မတီရဲ့ တင်ပြချက်အရ အစည်းအဝေးတက်ရောက်ခွင့်ရှိတဲ့ ပြည်ထောင်စုလွှတ်တော်ကိုယ်စားလှယ်ဦးရေ စုစုပေါင်း ၆၄၇ ဦးရှိပြီး ဒီကနေ့ အစည်းအဝေးကို ၅၅၅ ဦး တက်ရောက်ပါတယ်။ တက်ရောက်ခွင့်ရှိတဲ့ ကိုယ်စားလှယ်ဦးရေ စုစုပေါင်းရဲ့ ၈၅.၇၈ ရာခိုင်နှုန်းရှိပြီး

---

ပြည်ထောင်စုအစိုးရအဖွဲ့

**စီးပွားရေးရာကော်မတီ**

စာအမှတ်၊ စီးပွားကော်မတီ/အစိုးရအဖွဲ့ ( ၁၃၄ /၂၀၁၇)

ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဩဂုတ်လ ၂၀ ရက်

သို့

နိုင်ငံတော်သမ္မတရုံး၊ စီးပွားရေးရာဌာနကြီး

အကြောင်းအရာ။ **စီးပွားရေးရာကော်မတီ ( ၁၃/ ၂၀၁၇ ) ၏ အမှာစာ ကောက်နုတ်ချက် တင်ပြခြင်းကိစ္စ**

၁။ စီးပွားရေးရာကော်မတီ အစည်းအဝေးအမှတ်စဉ် (၁၃/၂၀၁၇) ကို ၁၈-၈-၂၀၁၇ ရက်နေ့ (သောကြာနေ့)တွင် နိုင်ငံတော်သမ္မတအိမ်တော် (ဘီ)ဆောင်၊ သမ္မတရုံးဝန်ကြီးဌာန အစည်းအဝေး ခန်းမ၌ ကျင်းပပြုလုပ်ခဲ့ပါသည်။

၂။ အဆိုပါ အစည်းအဝေး၌ ဆွေးနွေးခဲ့သည့် အကြောင်းအရာများ၏ ကောက်နုတ်ချက်များကို သိရှိနိုင်ပါရန် ပူးတွဲပါဇယားဖြင့် တင်ပြအပ်ပါသည်။

20.8.17

အတွင်းရေးမှူး

စီးပွားရေးရာကော်မတီ

မိတ္တူကို

သမ္မတရုံးဝန်ကြီးဌာန

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

သာသနာရေးနှင့် ယဉ်ကျေးမှုဝန်ကြီးဌာန

စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ပညာရေးဝန်ကြီးဌာန

ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

လူမှုဝန်ထမ်း၊ကယ်ဆယ်ရေးနှင့်ပြန်လည်နေရာချထားရေးဝန်ကြီးဌာန

ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန

ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့

ရုံးလက်ခံ/မျှောစာတွဲ

| စဉ် | ဝန်ကြီးဌာန | အကြောင်းအရာ | ဆောင်ရွက်လိုသည့်ကိစ္စ | ရှေ့နေချုပ်၏မှတ်ချက် |
|---|---|---|---|---|
| (၁၀) | လျှပ်စစ်နှင့်စွမ်းအင် ဝန်ကြီးဌာန | ရေနံဓာတ်ငွေ့ရည် ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် မြန်မာ့ရေနံ ဓာတုဗေဒလုပ်ငန်းနှင့် ရတနာစုကုမ္ပဏီ တို့အကြား ချုပ်ဆိုမည့် အမြတ်ခွဲဝေမှု သဘောတူ စာချုပ်နှင့် နောက်ဆက်တွဲ စာချုပ်များအား လက်မှတ်ရေးထိုး ခွင့် ပြုပါရန်ကိစ္စ။ | <u>လက်မှတ်ရေးထိုးခွင့်</u><br>ရေနံဓာတ်ငွေ့ရည် စက်ရုံ(၂)ရုံ လည်ပတ် ထုတ်လုပ်ခြင်း၊ ရေနံဓာတ်ငွေ့ရည် အရောင်း ဆိုင် (၄)ဆိုင်တို့ကို ငှားရမ်း၍ ဖြန့်ဖြူး ရောင်းချခြင်းနှင့် အမြတ်ခွဲဝေမှု သဘောတူ စာချုပ် နှင့် နောက်ဆက်တွဲ စာချုပ်များ<br>မြန်မာ့ရေနံ ဓာတုဗေဒ လုပ်ငန်းနှင့် ရတနာစုကုမ္ပဏီ | သဘောတူပါသည်။ |